# အင်္ဂုတ္တရနိကာယ်

# အင်္ဂုတ္တိုရ်ပါဠိတော်

## မြန်မာပြန်

## ပဉ္စကနိပါတ်

------

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

၁ - ပဌမပဏ္ဏာသက (ပဌမသုတ်ငါးဆယ်)

- ၁ - သေခဗလဝဂ်
- ၂ - ဗလဝဂ်
- ၃ - ပဉ္စင်္ဂိကဝဂ်
- ၄ - သုမနဝဂ်
- ၅ - မုဏ္ဍရာဇဝဂ်

၂ - ဒုတိယပဏ္ဏာသက (ဒုတိယသုတ်ငါးဆယ်)

- (၆) ၁ - နီဝရဏဝဂ်
- (၇) ၂ - သညာဝဂ်
- (၈) ၃ - ယောဓာဇီဝဝဂ်
- (၉) ၄ - ထေရဝဂ်
- (၁၀) ၅ - ကကုဓဝဂ်

၃ - တတိယပဏ္ဏာသက (တတိယသုတ်ငါးဆယ်)

- (၁၁) ၁ - ဖာသုဝိဟာရဝဂ်
- (၁၂) ၂ - အန္ဓကဝိန္ဒဝဂ်
- (၁၃) ၃ - ဂိလာနဝဂ်
- (၁၄) ၄ - ရာဇဝဂ်
- (၁၅) ၅ - တိကဏ္ဍကီဝဂ်

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်



**ပဉ္စကနိပါတ် မာတိကာ ပြီး၏။**

------

# အင်္ဂုတ္တရနိကာယ်

# အင်္ဂုတ္တိုရ်ပါဠိတော်

## မြန်မာပြန်

## ပဉ္စကနိပါတ်

------

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

### ၁ - ပဌမပဏ္ဏာသက (ပဌမသုတ်ငါးဆယ်)

### ၁ - သေခဗလဝဂ်

၁ - သံခိတ္တသုတ်

၂ - ဝိတ္ထတသုတ်

၃ - ဒုက္ခသုတ်

၄ - ယထာဘတသုတ်

၅ - သိက္ခာသုတ်

၆ - သမာပတ္တိသုတ်

၇ - ကာမသုတ်

၈ - စဝနသုတ်

၉ - ပဌမ အဂါရဝသုတ်

၁၀ - ဒုတိယ အဂါရဝသုတ်

------

### ၂ - ဗလဝဂ်

၁ - အနနုဿုတသုတ်

၂ - ကူဋသုတ်

၃ - သံခိတ္တသုတ်

၄ - ဝိတ္ထတသုတ်

၅ - ဒဋ္ဌဗ္ဗသုတ်

၆ - ပုနကူဋသုတ်

၇ - ပဌမ ဟိတသုတ်

၈ - ဒုတိယ ဟိတသုတ်

၉ - တတိယ ဟိတသုတ်

၁၀ - စတုတ္ထဟိတသုတ်

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

### ၃ - ပဉ္စင်္ဂိကဝဂ်



------

### ၄ - သုမနဝဂ်



------

### ၅ - မုဏ္ဍရာဇဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

## ၂ - ဒုတိယပဏ္ဏာသက (ဒုတိယသုတ်ငါးဆယ်)

### (၆) ၁ - နီဝရဏဝဂ်



------

### (၇) ၂ - သညာဝဂ်



------

### (၈) ၃ - ယောဓာဇီဝဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

### (၉) ၄ - ထေရဝဂ်



------

### (၁၀) ၅ - ကကုဓဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

## ၃ - တတိယပဏ္ဏာသက (တတိယသုတ်ငါးဆယ်)

### (၁၁) ၁ - ဖာသုဝိဟာရဝဂ်

၁ - သာရဇ္ဇသုတ်
၂ - ဥဿင်္ကိတသုတ်
၃ - မဟာစောရသုတ်
၄ - သမဏ သုခုမာလသုတ်
၅ - ဖာသုဝိဟာရသုတ်
၆ - အာနန္ဒသုတ်
၇ - သီလသုတ်
၈ - အသေခသုတ်
၉ - စာတုဒ္ဒိသသုတ်
၁၀ - အရညသုတ်

------

### (၁၂) ၂ - အန္ဓကဝိန္ဒဝဂ်

၁ - ကုလူပကသုတ်
၂ - ပစ္ဆာသမဏသုတ်
၃ - သမ္မာသမာဓိသုတ်
၄ - အန္ဓကဝိန္ဒသုတ်
၅ - မစ္ဆရိနီသုတ်
၆ - ဝဏ္ဏနာသုတ်
၇ - ဣဿုကိနီသုတ်
၈ - မိစ္ဆာဒိဋ္ဌိကသုတ်
၉ - မိစ္ဆာဝါစာသုတ်
၁၀ - မိစ္ဆာဝါယာမသုတ်

------

### (၁၃) ၃ - ဂိလာနဝဂ်

၁ - ဂိလာနသုတ်
၂ - သတိသူပဋ္ဌိတသုတ်
၃ - ပဌမ ဥပဋ္ဌာကသုတ်
၄ - ဒုတိယ ဥပဋ္ဌာကသုတ်
၅ - ပဌမ အနာယုဿာသုတ်
၆ - ဒုတိယ အနာယုဿာသုတ်
၇ - ဝပကာသသုတ်
၈ - သမဏသုခသုတ်
၉ - ပရိကုပ္ပသုတ်
၁၀ - ဗျသနသုတ်

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

### (၁၄) ၄ - ရာဇဝဂ်



------

### (၁၅) ၅ - တိကဏ္ဍကီဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

## ၄ - စတုတ္ထပဏ္ဏာသက (စတုတ္ထသုတ်ငါးဆယ်)

### (၁၆) ၁ - သဒ္ဓမ္မဝဂ်



------

### (၁၇) ၂ - အာဃာတဝဂ်



------

### (၁၈) ၃ - ဥပါသကဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

### (၁၉) ၄ - အရညဝဂ်



------

### (၂၀) ၅ - ဗြာဟ္မဏဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

## ၅ - ပဉ္စမ ပဏ္ဏာသက (ပဉ္စမသုတ်ငါးဆယ်)

### (၂၁) ၁ - ကိမိလဝဂ်



------

### (၂၂) ၂ - အက္ကောသကဝဂ်



------

### (၂၃) ၃ - ဒီဃစာရိကဝဂ်



------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

### (၂၄) ၄ - အာဝါသိကဝဂ်

၁ - အာဝါသိကသုတ်
၂ - ပိယသုတ်
၃ - သောဘနသုတ်
၄ - ဗဟူပကာရသုတ်
၅ - အနုကမ္ပသုတ်
၆ - ပဌမ အဝဏ္ဏာရဟသုတ်
၇ - ဒုတိယ အဝဏ္ဏာရဟသုတ်
၈ - တတိယ အဝဏ္ဏာရဟသုတ်
၉ - ပဌမ မစ္ဆရိယသုတ်
၁၀ - ဒုတိယ မစ္ဆရိယသုတ်

------

### (၂၅) ၅ - ဒုစ္စရိတဝဂ်

၁ - ပဌမ ဒုစ္စရိတသုတ်
၂ - ပဌမ ကာယဒုစ္စရိတသုတ်
၃ - ပဌမ ဝစီဒုစ္စရိတသုတ်
၄ - ပဌမ မနောဒုစ္စရိတသုတ်
၅ - ဒုတိယ ဒုစ္စရိတသုတ်
၆ - ဒုတိယ ကာယဒုစ္စရိတသုတ်
၇ - ဒုတိယ ဝစီဒုစ္စရိတသုတ်
၈ - ဒုတိယ မနောဒုစ္စရိတသုတ်
၉ - သိဝထိကသုတ်
၁၀ - ပုဂ္ဂလပ္ပသာဒသုတ်

------

### (၂၆) ၆ - ဥပသမ္ပဒါဝဂ်

၁ - ဥပသမ္ပာဒေတဗ္ဗသုတ်
၂ - နိဿယသုတ်
၃ - သာမဏေရသုတ်
၄ - ပဉ္စမစ္ဆရိယသုတ်
၅ - မစ္ဆရိယပ္ပဟာနသုတ်
၆ - ပဌမ ဈာနသုတ်
၇ - ၁၃ - ဒုတိယ ဈာနသုတ် စသည်
ခုနစ်သုတ်
၁၄ - အပရပဌမဈာနသုတ်
၁၅ -၂၁ - အပရ ဒုတိယ ဈာနသုတ် စသည်

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ပဉ္စကနိပါတ်

၁ - သမ္မုတိပေယျာလ

၁ - ဘတ္တုဒ္ဒေသကသုတ်

၂ - ၁၄ - သေနာသနပညာပကသုတ် စသည်

၂ - သိက္ခာပဒပေယျာလ

၁ - ဘိက္ခုသုတ်

၂ - ၇ - ဘိက္ခုနီသုတ် စသည်

၈ - အာဇီဝကသုတ်

၉ - ၁၇ - နိဂဏ္ဌသုတ် စသည်

၃ - ရာဂပေယျာလ

ရာဂပေယျာလသုတ်

**ပဉ္စကနိပါတ် မာတိကာ ပြီး၏။**

------

# အင်္ဂုတ္တရနိကာယ်
# အင်္ဂုတ္တိုရ်ပါဠိတော်
## မြန်မာပြန်
## ပဉ္စကနိပါတ်

------

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

## ၁ - ပဌမပဏ္ဏာသက (ပဌမသုတ်ငါးဆယ်)

### === ၁ - သေခဗလဝဂ် ===

### ၁ - သံခိတ္တသုတ်

၁။ အကျွန်ုပ်သည် ဤသို့ ကြားနာခဲ့ရပါသည် -

အခါတစ်ပါး၌ မြတ်စွာဘုရားသည် သာဝတ္ထိပြည် အနာထပိဏ်သူဌေး၏ အရံဖြစ်သော ဇေတဝန်ကျောင်း၌ သီတင်းသုံး နေတော်မူ၏။ ထိုအခါ၌ မြတ်စွာဘုရားသည် ရဟန်းတို့ကို "ရဟန်းတို့" ဟု ခေါ်တော်မူ၏။ ထိုရဟန်းတို့က "အသျှင်ဘုရား" ဟု မြတ်စွာဘုရားအား ပြန်ကြား လျှောက်ထားကြကုန်၏၊ မြတ်စွာဘုရားသည် ဤစကားကို မိန့်တော်မူ၏။ ရဟန်းတို့ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ' အား။

ရှက်မှု 'ဟိရီ' အား။

ကြောက်လန့်မှု 'ဩတ္တပ္ပ' အား။

အားထုတ်မှု 'ဝီရိယ' အား။

သိမှု 'ပညာ' အား တို့တည်း။

ရဟန်းတို့ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားတို့သည် ဤငါးမျိုးတို့တည်း။

ရဟန်းတို့ ထို့ကြောင့် ဤသာသနာတော်၌ "ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော ယုံကြည်မှု 'သဒ္ဓါ' အားနှင့် ပြည့်စုံစေမည်၊ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော ရှက်မှု 'ဟိရီ' အားနှင့် ပြည့်စုံစေမည်၊ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော ကြောက်လန့်မှု 'ဩတ္တပ္ပ' အားနှင့် ပြည့်စုံစေမည်၊ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော အားထုတ်မှု 'ဝီရိယ' အားနှင့် ပြည့်စုံစေမည်၊ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော သိမှု 'ပညာ' အားနှင့် ပြည့်စုံစေမည်" ဟု ကျင့်ရမည်၊ ရဟန်းတို့ ဤသို့လျှင် သင်တို့ ကျင့်ရမည် ဟု (မိန့်တော်မူ၏)။

မြတ်စွာဘုရားသည် ဤစကားကို ဟောကြားတော်မူ၏၊ ထိုရဟန်းတို့သည် မြတ်စွာဘုရား ဟောတော်မူသော တရားကို နှစ်လိုကုန်သည် ဖြစ်၍ ဝမ်းမြောက်စွာ ခံယူကြလေကုန်သတည်း။

**ပဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

### ၂ - ဝိတ္ထတသုတ်

၂။ ရဟန်းတို့ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ' အား။

ရှက်မှု 'ဟိရီ' အား။

ကြောက်လန့်မှု 'ဩတ္တပ္ပ' အား။

အားထုတ်မှု 'ဝီရိယ' အား။

သိမှု 'ပညာ' အား တို့တည်း။

ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ' အား ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် ယုံကြည်မှု 'သဒ္ဓါ' ရှိ၏၊ မြတ်စွာဘုရား၏ အရဟတ္တမဂ်ဉာဏ်နှင့် သဗ္ဗညုတဉာဏ်တော်ကို ယုံကြည်၏။

"ထိုမြတ်စွာဘုရားသည် ပူဇော်အထူးကို ခံတော်မူထိုက်သော အကြောင်းကြောင့်လည်း အရဟံ မည်တော်မူ၏၊ (အလုံးစုံသော တရားတို့ကို) ကိုယ်တိုင်မှန်စွာ သိတော်မူသော အကြောင်းကြောင့်လည်း သမ္မာသမ္ဗုဒ္ဓ မည်တော်မူ၏၊ အသိဉာဏ် 'ဝိဇ္ဇာ' အကျင့် 'စရဏ'နှင့် ပြည့်စုံတော်မူသော အကြောင်းကြောင့်လည်း ဝိဇ္ဇာစရဏသမ္ပန္န မည်တော်မူ၏၊ ကောင်းသော စကားကို ဆိုတော် မူတတ်သော အကြောင်းကြောင့်လည်း သုဂတ မည်တော်မူ၏၊ လောကကို သိတော်မူသော အကြောင်းကြောင့်လည်း လောကဝိဒူ မည်တော်မူ၏၊ ဆုံးမထိုက်သူကို ဆုံးမတတ်သည့် အတုမဲ့ပုဂ္ဂိုလ် ဖြစ်တော်မူသော အကြောင်းကြောင့်လည်း အနုတ္တရောပုရိသဒမ္မသာရထိ မည်တော်မူ၏၊ နတ်လူတို့၏ ဆရာ ဖြစ်တော်မူသော အကြောင်းကြောင့်လည်း သတ္ထာဒေဝမနုဿာနံ မည်တော်မူ၏၊ (သစ္စာလေးပါးတရားကို) သိစေတော်မူသော အကြောင်းကြောင့်လည်း ဗုဒ္ဓ မည်တော်မူ၏၊ ဘုန်းတန်ခိုး ကြီးတော်မူသော အကြောင်းကြောင့်လည်း ဘဂဝါ မည်တော်မူ၏" ဟု (ယုံကြည်၏)။

ရဟန်းတို့ ဤသည်ကို ယုံကြည်မှု 'သဒ္ဓါ' အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ ရှက်မှု 'ဟိရီ' အားဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် အရှက်ရှိ၏၊ ကာယဒုစရိုက် ဝစီဒုစရိုက် မနောဒုစရိုက်တို့မှ ရှက်၏၊ ယုတ်ညံ့သော အကုသိုလ် တရားတို့သို့ ရောက်ခြင်းမှ ရှက်၏။

ရဟန်းတို့ ဤသည်ကို ရှက်မှု 'ဟိရီ' အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ ကြောက်လန့်မှု 'ဩတ္တပ္ပ' အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် ကြောက်လန့်မှုရှိ၏၊ ကာယဒုစရိုက် ဝစီဒုစရိုက် မနောဒုစရိုက်တို့မှ ကြောက်လန့်၏၊ ယုတ်ညံ့သော အကုသိုလ် တရားတို့သို့ ရောက်ခြင်းမှ ကြောက်လန့်၏။

ရဟန်းတို့ ဤသည်ကို ကြောက်လန့်မှု 'ဩတ္တပ္ပ' အား ဟူ၍ ဆိုအပ်၏။

ရဟန်းတို့ အားထုတ်မှု 'ဝီရိယ' အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် အကုသိုလ် တရားတို့ကို ပယ်ရန် ကုသိုလ်တရားတို့ကို ပြည့်စုံစေရန် ထက်သန်သော ဝီရိယ ရှိသည်ဖြစ်၍ နေထိုင်၏၊ အားနှင့် ပြည့်စုံ၏၊ မြဲမြံသော လုံ့လရှိ၏၊ ကုသိုလ် တရားတို့၌ တာဝန်ကို ပစ်ချထားခြင်း မရှိ။

ရဟန်းတို့ ဤသည်ကို အားထုတ်မှု 'ဝီရိယ' အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ သိမှု 'ပညာ' အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာ တပည့်သည် ပညာရှိ၏၊ ဖြစ်မှု ပျက်မှုကို သိတတ်၍ ကိလေသာတို့ကို ဖောက်ခွဲနိုင်သည့် ဆင်းရဲ ကုန်ခန်းရာ (နိဗ္ဗာန်)သို့ ကောင်းစွာ ရောက်စေနိုင်သော မြတ်သော ပညာနှင့် ပြည့်စုံ၏။

ရဟန်းတို့ ဤသည်ကို သိမှု 'ပညာ' အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ ဤသည်တို့ကား ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားငါးမျိုးတို့တည်း။

ရဟန်းတို့ ထို့ကြောင့် ဤသာသနာတော်၌ "ငါတို့သည် ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော ယုံကြည်မှု 'သဒ္ဓါ' အားနှင့် ပြည့်စုံစေမည်၊ ရှက်မှု 'ဟိရီ' အားနှင့်၊ ကြောက်လန့်မှု 'ဩတ္တပ္ပ' အားနှင့် အားထုတ်မှု 'ဝီရိယ' အားနှင့်၊ သိမှု 'ပညာ' အားနှင့် ပြည့်စုံစေမည်" ဟု ကျင့်ရမည်။

ရဟန်းတို့ ဤသို့လျှင် သင်တို့ ကျင့်ရမည် ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

## ၃ - ဒုက္ခသုတ်

၃။ ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ယခုဘဝ၌ပင်လျှင် ပြဲငြင်ခြင်း ပင်ပန်းခြင်း ပူပန်ခြင်းနှင့် တကွ ဆင်းရဲစွာ နေထိုင်ရ၏၊ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ မကောင်းသော လားရာ 'ဒုဂ္ဂတိဘဝ' ကို (မချွတ်ရလိမ့်မည်ဟု) မျှော်လင့်အပ်၏။

အဘယ်တရား ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည်

ယုံကြည်မှု 'သဒ္ဓါ' မရှိ။

ရှက်မှု 'ဟိရီ' မရှိ။

ကြောက်လန့်မှု 'ဩတ္တပ္ပ' မရှိ။

ပျင်းရိ၏။

ပညာမဲ့၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ယခုဘဝ၌ပင်လျှင် ငြိုငြင်ခြင်း ပင်ပန်းခြင်း ပူပန်ခြင်းနှင့်တကွ ဆင်းရဲစွာ နေထိုင်ရ၏၊ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ မကောင်းသော လားရာ 'ဒုဂ္ဂတိဘဝ' ကို (မချွတ်ရလိမ့်မည် ဟု) မျှော်လင့်အပ်၏။

ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ယခုဘဝ၌ပင် မငြိုငြင် မပင်ပန်းဘဲ မပူပန်ရမူ၍ ချမ်းသာစွာ နေထိုင်ရ၏၊ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော လားရာ 'သုဂတိဘဝ' ကို (မချွတ် ရလိမ့်မည် ဟု) မျှော်လင့်အပ်၏။

အဘယ် တရားငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည်

ယုံကြည်မှု 'သဒ္ဓါ' ရှိ၏။

ရှက်မှု 'ဟိရီ' ရှိ၏။

ကြောက်လန့်မှု 'ဩတ္တပ္ပ' ရှိ၏။

ထက်သန်သော 'ဝီရိယ' ရှိ၏။

သိမှု 'ပညာ' ရှိ၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ယခုဘဝ၌ပင်လျှင် မငြိုငြင် မပင်ပန်းဘဲ မပူပန်ရမူ၍ ချမ်းသာစွာ နေထိုင်ရ၏၊ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော လားရာ 'သုဂတိဘဝ' ကို (မချွတ် ရလိမ့်မည် ဟု) မျှော်လင့်အပ်၏ ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

**=== ၁ - သေခဗလဝဂ် ===**

## ၄ - ယထာဘတသုတ်

၄။ ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

အဘယ်တရား ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည်

ယုံကြည်မှု 'သဒ္ဓါ' မရှိ။

ရှက်မှု 'ဟိရီ' မရှိ။

ကြောက်လန့်မှု 'ဩတ္တပ္ပ' မရှိ။

ပျင်းရိ၏။

ပညာမဲ့၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်တရား ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည်

ယုံကြည်မှု 'သဒ္ဓါ' ရှိ၏။

ရှက်မှု 'ဟိရီ' ရှိ၏။

ကြောက်လန့်မှု 'သြတ္တပ္ပ' ရှိ၏။

ထက်သန်သော ဝီရိယရှိ၏။

သိမှု 'ပညာ' ရှိ၏။

ရဟန်းတို့ ဤတရား ငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

## ၅ - သိက္ခာသုတ်

၅။ ရဟန်းတို့ ရဟန်း ဖြစ်စေ ရဟန်းမိန်းမ ဖြစ်စေ မည်သူမဆို သိက္ခာချ၍ လူထွက်၏၊ ယခုဘဝ၌ပင် ပြောဆို ကဲ့ရဲ့ဖွယ် အကြောင်းငါးမျိုးတို့သည် ထိုသူ့ထံသို့ ရောက်လာကုန်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

သင့်အား ကုသိုလ် တရားတို့၌ ယုံကြည်မှု 'သဒ္ဓါ' မည်သည်လည်း မရှိတော့ပြီ။

သင့်အား ကုသိုလ် တရားတို့၌ ရှက်မှု 'ဟိရီ' မည်သည်လည်း မရှိတော့ပြီ။

သင့်အား ကုသိုလ် တရားတို့၌ ကြောက်လန့်မှု 'သြတ္တပ္ပ' မည်သည်လည်း မရှိတော့ပြီ။

သင့်အား ကုသိုလ် တရားတို့၌ အားထုတ်မှု 'ဝီရိယ' မည်သည်လည်း မရှိတော့ပြီ။

သင့်အား ကုသိုလ် တရားတို့၌ သိမှု 'ပညာ' မည်သည်လည်း မရှိတော့ပြီ။

ရဟန်းတို့ ရဟန်း ဖြစ်စေ ရဟန်းမိန်းမ ဖြစ်စေ မည်သူမဆို သိက္ခာချ၍ လူထွက်၏၊ ယခုဘဝ၌ပင် ပြောဆို ကဲ့ရဲ့ဖွယ် အကြောင်းငါးမျိုးတို့သည် ထိုသူ့ထံသို့ ရောက်လာကုန်၏။

ရဟန်းတို့ ရဟန်း ဖြစ်စေ ရဟန်းမိန်းမ ဖြစ်စေ မည်သူမဆို ဆင်းရဲခြင်း နှလုံးမသာခြင်းနှင့်တကွ လည်း မျက်ရည်ရွှဲစို ငိုယိုလျက် ထက်ဝန်းကျင် ပြည့်စုံသော စင်ကြယ်သော မြတ်သော အကျင့်ကို ကျင့်သုံး၏၊ ယခုဘဝ၌ပင် ချီးကျူးဖွယ် အကြောင်း ငါးမျိုးတို့သည် ထိုသူ့ထံသို့ ရောက်လာကုန်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

သင့်အား ကုသိုလ် တရားတို့၌ ယုံကြည်မှု 'သဒ္ဓါ' မည်သည်လည်း ရှိ၏။

သင့်အား ကုသိုလ် တရားတို့၌ ရှက်မှု 'ဟိရီ' မည်သည်လည်း ရှိ၏။

သင့်အား ကုသိုလ် တရားတို့၌ ကြောက်လန့်မှု 'ဩတ္တပ္ပ' မည်သည်လည်း ရှိ၏။

သင့်အား ကုသိုလ် တရားတို့၌ အားထုတ်မှု 'ဝီရိယ' မည်သည်လည်း ရှိ၏။

သင့်အား ကုသိုလ် တရားတို့၌ သိမှု 'ပညာ' မည်သည်လည်း ရှိ၏။

ရဟန်းတို့ ရဟန်း ဖြစ်စေ ရဟန်းမိန်းမ ဖြစ်စေ မည်သူမဆို ဆင်းရဲခြင်း နှလုံးမသာခြင်းနှင့်တကွ လည်း မျက်ရည်ရွှဲစို ငိုယိုလျက် ထက်ဝန်းကျင် ပြည့်စုံသော စင်ကြယ်သော မြတ်သော အကျင့်ကို ကျင့်သုံး၏၊ ယခုဘဝ၌ပင် ချီးကျူးဖွယ် အကြောင်း ငါးမျိုးတို့သည် ထိုသူ့ထံသို့ ရောက်လာကုန်၏ ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

## ၆ - သမာပတ္တိသုတ်

၆။ ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ' သည် ကုသိုလ် တရားတို့၌ တည်နေသမျှ ကာလပတ်လုံး အကုသိုလ် မဖြစ်ပေါ်နိုင်၊ ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ' ပျောက်ကွယ်၍ မယုံကြည်မှု မြေးယှက် တည်နေသောအခါ၌ မူကား အကုသိုလ် ဖြစ်ပေါ်လာ၏။

ရဟန်းတို့ ရှက်မှု 'ဟိရီ'သည် ကုသိုလ် တရားတို့၌ တည်နေသမျှ ကာလပတ်လုံး အကုသိုလ် မဖြစ်ပေါ်နိုင်၊ ရဟန်းတို့ ရှက်မှု 'ဟိရီ' ပျောက်ကွယ်၍ မရှက်မှု 'အဟိရီက' မြေးယှက် တည်နေသော အခါ၌မူကား အကုသိုလ် ဖြစ်ပေါ်လာ၏။

ရဟန်းတို့ ကြောက်လန့်မှု 'ဩတ္တပ္ပ'သည် ကုသိုလ် တရားတို့၌ တည်နေသမျှ ကာလပတ်လုံး အကုသိုလ် မဖြစ်ပေါ်နိုင်၊ ရဟန်းတို့ ကြောက်လန့်မှု 'ဩတ္တပ္ပ' ပျောက်ကွယ်၍ မကြောက်လန့်မှု 'အနောတ္တပ္ပ' မြေးယှက် တည်နေသော အခါ၌မူကား အကုသိုလ် ဖြစ်ပေါ်လာ၏။

ရဟန်းတို့ အားထုတ်မှု 'ဝီရိယ'သည် ကုသိုလ် တရားတို့၌ တည်နေသမျှ ကာလပတ်လုံး အကုသိုလ် မဖြစ်ပေါ်နိုင်၊ ရဟန်းတို့ အားထုတ်မှု 'ဝီရိယ' ပျောက်ကွယ်၍ ပျင်းရိမှု မြေးယှက် တည်နေသော အခါ၌ မူကား အကုသိုလ် ဖြစ်ပေါ်လာ၏။

ရဟန်းတို့ သိမှု 'ပညာ'သည် ကုသိုလ် တရားတို့၌ တည်နေသမျှ ကာလပတ်လုံး အကုသိုလ် မဖြစ်ပေါ်နိုင်၊ ရဟန်းတို့ သိမှု 'ပညာ' ပျောက်ကွယ်၍ မသိမှု မြေးယှက် တည်နေသော အခါ၌မူကား အကုသိုလ် ဖြစ်ပေါ်လာ၏ ဟု (မိန့်တော်မူ၏)။

ဆဋ္ဌသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

### ၇ - ကာမသုတ်

၇။ ရဟန်းတို့ သတ္တဝါတို့သည် များသောအားဖြင့် ကာမဂုဏ်တို့၌ မွေ့လျော် ပျော်ပိုက်ကြကုန်၏။ ရဟန်းတို့ အမျိုးကောင်းသားသည် မြက်ရိတ် တံစဉ်နှင့် မြက်ထမ်း ထမ်းပိုးကို စွန့်ပစ်၍ လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင်ရောက်ပါမူ "ယုံကြည်မှုဖြင့် ရဟန်းပြုသော 'သဒ္ဓါပဗ္ဗဇိတ' အမျိုးကောင်းသား" ဟု ဆိုသင့်၏။

ထိုသို့ ဆိုသင့်ခြင်းသည် အဘယ်ကြောင့်နည်း။

ရဟန်းတို့ မည်သည့် ကာမဂုဏ်မျိုးမဆို ပျိုမျစ်နုနယ် ငယ်ရွယ်သူသာ ရနိုင်၏၊ ရဟန်းတို့ အောက်တန်းစား ကာမဂုဏ် ဖြစ်စေ အလတ်တန်းစား ကာမဂုဏ် ဖြစ်စေ အထက်တန်းစား ကာမဂုဏ် ဖြစ်စေ ကာမဂုဏ် အားလုံးတို့သည် "ကာမဂုဏ်တို့" ဟူ၍သာ ခေါ်ဝေါ်ခြင်းသို့ ရောက်ကုန်၏။

ရဟန်းတို့ ပက်လက် အိပ်တတ်ကာမျှဖြစ်၍ နုနယ်ငယ်ရွယ်သော သူငယ်သည် အထိန်း၏ ပေါ့လျော့မှုကြောင့် သစ်သားစကို ဖြစ်စေ အိုးခြမ်းကွဲကို ဖြစ်စေ မျိုရာ၏၊ ထိုအရာကို အထိန်းသည် အလျင်အမြန် နှလုံးသွင်းပြီးလျှင် အလျင်အမြန် ထုတ်ယူရာ၏၊ အကယ်၍ အလျင်အမြန် ထုတ်ယူရန် မတတ်နိုင်ပါမူ လက်ဝဲလက်ဖြင့် ဦးခေါင်းကို ကိုင်ကာ လက်ယာလက်ဖြင့် လက်ညှိုးကို ကွေး၍ သွေးနှင့် တကွ သော်လည်း ထုတ်ယူရာ၏။

ထိုသို့ ပြုရခြင်းသည် အဘယ်ကြောင့်နည်း။ ရဟန်းတို့ သူငယ်ကို ညှဉ်းပန်းမှုသည်ကား ရှိပေ၏၊ မရှိ ဟု ငါ မဆို၊ ရဟန်းတို့ သို့ပင်ရှိလင့်ကစား အကျိုးကို လိုလား၍ အစီးအပွါးကို ရှာမှီးတတ် သနား စောင့် ရှောက်တတ်သော အထိန်းသည် သနား စောင့်ရှောက်ခြင်းကို အကြောင်းပြု၍ ဤအမှုမျိုးကို ပြုလုပ်သင့် သည်သာတည်း။

ရဟန်းတို့ ထိုသူငယ် ကြီးပြင်းလာ၍ အသိဉာဏ် ရှိလောက်သောအခါ အထိန်းသည် ထိုသူငယ်၌ ကြည့်ရှုဖွယ် မလို၊ ဤအခါ၌ သူငယ်သည် မိမိကိုယ်ကို စောင့်ရှောက်နိုင်သူ ဖြစ်၏၊ မေ့လျော့တော့မည် မဟုတ်ချေ။

ရဟန်းတို့ ဤအတူပင် ရဟန်းသည် ယုံကြည်မှု 'သဒ္ဓါ' ရှက်မှု 'ဟိရီ' ကြောက်လန့်မှု 'ဩတ္တပ္ပ' အားထုတ်မှု 'ဝီရိယ' သိမှု 'ပညာ' တို့ဖြင့် ကုသိုလ် တရားတို့၌ (ပြုလုပ်သင့်သည်ကို) မပြုလုပ်သေးသမျှ ကာလပတ်လုံး ငါသည် ထိုရဟန်းကို စောင့်ရှောက် ထိန်းသိမ်းထားရမည်သာတည်း။

ရဟန်းတို့ ရဟန်းသည် ယုံကြည်မှု 'သဒ္ဓါ' ရှက်မှု 'ဟိရီ' ကြောက်လန့်မှု 'ဩတ္တပ္ပ' အားထုတ်မှု 'ဝီရိယ' သိမှု 'ပညာ' တို့ဖြင့် ကုသိုလ် တရားတို့၌ (ပြုလုပ်သင့်သည်ကို) ပြုလုပ်သော ဤအခါ၌မူကား

ငါသည် ထိုရဟန်း၌ ကြည့်ရှုဖွယ် မလို၊ ဤအခါ၌ ရဟန်းသည် မိမိကိုယ်ကို စောင့်ရှောက်နိုင်သူ ဖြစ်ပေ၏၊ မေ့လျော့တော့မည် မဟုတ်ချေ ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

### ၈ - စဝနသုတ်

၈။ ရဟန်းတို့ တရား ငါးမျိုးနှင့်ပြည့်စုံသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်း တရား (သာသနာတော်)၌ မတည်နိုင်။

အဘယ်ငါးမျိုးတို့နည်းဟူမူ - ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ' မရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

ရှက်မှု 'ဟိရီ' မရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

ကြောက်လန့်မှု 'ဩတ္တပ္ပ' မရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

ပျင်းရိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

သိမှု 'ပညာ' မရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား (သာသနာတော်)၌ မတည်နိုင်။

ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား (သာသနာတော်)၌ တည်နိုင်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ' ရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ရှက်မှု 'ဟိရီ' ရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ကြောက်လန့်မှု 'ဩတ္တပ္ပ' ရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ထက်သန်သော ဝီရိယရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

သိမှု 'ပညာ' ရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ရဟန်းတို့ ဤတရား ငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား (သာသနာတော်) ၌ တည်နိုင်၏ ဟု (မိန့်တော်မူ၏)။

**အဋ္ဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဗလဝဂ် ===

### ၉ - ပဥ္စမ အဂါရဝသုတ်

၉။ ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရိုသေမှု တုပ်ဝပ်မှုမရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား (သာသနာတော်)၌ မတည်နိုင်။

အဘယ်တရားငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ'မရှိ၍ ရိုသေမှု တုပ်ဝပ်မှုမရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား (သာသနာတော်)၌ မတည်နိုင်။

ရှက်မှု 'ဟိရီ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှုမရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

ကြောက်လန့်မှု 'ဩတ္တပ္ပ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှုမရှိသော ရဟန်းသည် ရွေ့လျောရ၏၊ ဥူတော်ကောင်း တရား၌ မတည်နိုင်။

ပျင်းရိ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

သိမှု 'ပညာ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှုမရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား၌ မတည်နိုင်။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ရွေ့လျောရ၏၊ သူတော်ကောင်းတရား (သာသနာတော်)၌ မတည်နိုင်။

ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား (သာသနာတော်)၌ တည်နိုင်၏။

အဘယ်တရားငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ'ရှိ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ရှက်မှု 'ဟိရီ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ကြောက်လန့်မှု 'ဩတ္တပ္ပ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ ဥူတော်ကောင်းတရား၌ တည်နိုင်၏။

ထက်သန်သော ဝီရိယရှိ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

သိမှု 'ပညာ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား၌ တည်နိုင်၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် မရွေ့လျောနိုင်၊ သူတော်ကောင်းတရား (သာသနာတော်)၌ တည်နိုင်၏ ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၁ - သေခဝလဝဂ် ===

### ၁၀ - ဒုတိယ အဂါရဝသုတ်

၁၀။ ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ဤဓမ္မဝိနယ (သာသနာတော်)၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်ချေ။

အဘယ် တရား ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှုမရှိသော ရဟန်းသည် ဤဓမ္မဝိနယ (သာသနာတော်)၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်။

ရှက်မှု 'ဟိရီ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်။

ကြောက်လန့်မှု 'ဩတ္တပ္ပ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်။

ပျင်းရိ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်။

သိမှု 'ပညာ' မရှိ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှု မရှိသော ရဟန်းသည် ဤဓမ္မဝိနယ (သာသနာတော်)၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် မထိုက်တန်ချေ။

ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှု ရှိသော ရဟန်းသည် ဤဓမ္မဝိနယ (သာသနာတော်)၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏။

အဘယ် တရား ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ယုံကြည်မှု 'သဒ္ဓါ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှုရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏။

ရှက်မှု 'ဟိရီ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှု ရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏။

ကြောက်လန့်မှု 'ဩတ္တပ္ပ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှု ရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏။

ထက်သန်သော ဝီရိယ ရှိ၍ ရိုသေမှု တုပ်ဝပ်မှု ရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏။

သိမှု 'ပညာ' ရှိ၍ ရိုသေမှု တုပ်ဝပ်မှု ရှိသော ရဟန်းသည် ဤဓမ္မဝိနယ၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံ၍ ရိုသေမှု တုပ်ဝပ်မှု ရှိသော ရဟန်းသည် ဤဓမ္မဝိနယ (သာသနာတော်)၌ ကြီးပွါး စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ရန် ထိုက်တန်၏ ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**ရှေးဦးစွာသော သေခဝလဝဂ် ပြီး၏။**

# အင်္ဂုတ္တိုရ်ပါဠိတော်

=== ၂ - ဗလဝဂ် ===

## ၁ - အနနုဿုတသုတ်

၁၁။ ရဟန်းတို့ (ဘုရားမဖြစ်မီ) ရှေးက မကြားဘူးသေးသော (သစ္စာလေးပါး) တရားတို့၌ ထူးသော ဉာဏ်ဖြင့် သိ၍ အပြီးအဆုံး တစ်ဖက်ကမ်းသို့ ရောက်၏ ဟု ငါဝန်ခံ၏။

ရဟန်းတို့ မြတ်စွာဘုရား၏ အားတို့သည် ဤငါးမျိုးတို့တည်း။

ယင်းအားငါးမျိုးတို့နှင့် ပြည့်စုံသော မြတ်စွာဘုရားသည် မြင့်မြတ်သော အရာ (ဘုရားအဖြစ်) ကို ဝန်ခံ၏၊ ပရိသတ်တို့၌ ရဲရင့်သော အသံကို မြွက်ဆို၏၊ ၊ မြတ်သော တရားစကြာကို လည်စေ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ' အား။

ရှက်မှု 'ဟိရီ' အား။

ကြောက်လန့်မှု 'ဩတ္တပ္ပ' အား။

အားထုတ်မှု 'ဝီရိယ' အား။

သိမှု 'ပညာ' အား တို့တည်း။

ရဟန်းတို့ မြတ်စွာဘုရား၏ အားတို့သည် ဤငါးမျိုးတို့တည်း။

ယင်းအားငါးမျိုးတို့နှင့် ပြည့်စုံသော မြတ်စွာဘုရားသည် မြင့်မြတ်သောအရာ (ဘုရားအဖြစ်) ကို ဝန်ခံ၏၊ ပရိသတ်တို့၌ ရဲရင့်သော အသံကို မြွက်ဆို၏၊ ၊ မြတ်သော တရားစကြာကို လည်စေ၏ ဟု (မိန့်တော်မူ၏)။

ပဌမသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

=== ၂ - ဗလဝဂ် ===

## ၂ - ကူဋသုတ်

၁၂။ ရဟန်းတို့ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ' အား။

ရှက်မှု 'ဟိရီ' အား။

ကြောက်လန့်မှု 'ဩတ္တပ္ပ' အား။

အားထုတ်မှု 'ဝီရိယ' အား။

သိမှု 'ပညာ' အား တို့တည်း။

ရဟန်းတို့ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားတို့သည် ဤငါးမျိုးတို့တည်း။

ရဟန်းတို့ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဤအားငါးမျိုးတို့တွင် ပညာအားသည် အမြတ်ဆုံး ဖြစ်၏၊ (ကျန်သောအားတို့ကို) သိမ်းယူနိုင်၏၊ ပေါင်းစုနိုင်၏။

ရဟန်းတို့ အထွတ်ရှိသော အိမ်တွင် အထွတ်သည် အမြတ်ဆုံး ဖြစ်သကဲ့သို့ (အခြင်ရနယ်တို့ကို) သိမ်းယူနိုင် သကဲ့သို့ ပေါင်းစုနိုင် သကဲ့သို့၊ ရဟန်းတို့ ဤအတူသာလျှင် ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဤအားငါးမျိုးတို့တွင် ထိုပညာအားသည် အမြတ်ဆုံးဖြစ်၏၊ (ကျန်သောအားတို့ကို) သိမ်းယူနိုင်၏၊ ပေါင်းစုနိုင်၏။

ရဟန်းတို့ ထို့ကြောင့် "ငါတို့သည် ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော ယုံကြည်မှု 'သဒ္ဓါ' အားနှင့် ပြည့်စုံစေမည်၊ ရှက်မှု 'ဟိရီ' အားနှင့်။ ကြောက်လန့်မှု 'ဩတ္တပ္ပ' အားနှင့်။ အားထုတ်မှု 'ဝီရိယ' အားနှင့်။ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ အားဖြစ်သော သိမှု 'ပညာ' အားနှင့် ပြည့်စုံစေမည်" ဟု ကျင့်ရမည်။ ရဟန်းတို့ ဤသို့လျှင် သင်တို့ ကျင့်ရမည် ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၂ - ဗလဝဂ် ===

## ၃ - သံခိတ္တသုတ်

၁၃။ ရဟန်းတို့ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ' အား။

အားထုတ်မှု 'ဝီရိယ' အား။

အောက်မေ့မှု 'သတိ' အား။

တည်ကြည်မှု 'သမာဓိ' အား။

သိမှု 'ပညာ' အား တို့တည်း။

ရဟန်းတို့ ဤသည်တို့ကား အားငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၂ - ဗလဝဂ် ===

## ၄ - ဝိတ္ထတသုတ်

၁၄။ ရဟန်းတို့ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု ‘သဒ္ဓါ’ အား။

အားထုတ်မှု ‘ဝီရိယ’ အား။

အောက်မေ့မှု ‘သတိ’ အား။

တည်ကြည်မှု ‘သမာဓိ’ အား။

သိမှု ‘ပညာ’ အား တို့တည်း။

ရဟန်းတို့ ယုံကြည်မှု ‘သဒ္ဓါ’ အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် ယုံကြည်မှု‘သဒ္ဓါ’ ရှိ၏၊ မြတ်စွာဘုရား၏ အရဟတ္တမဂ်ဉာဏ်နှင့် သဗ္ဗညုတဉာဏ်ကို ယုံကြည်၏။

“ထိုမြတ်စွာဘုရားသည် ပူဇော်အထူးကို ခံတော်မူထိုက်သော အကြောင်းကြောင့်လည်း အရဟံ မည်တော်မူ၏၊ (အလုံးစုံသောတရားတို့ကို) ကိုယ်တိုင်မှန်စွာ သိတော်မူသော အကြောင်းကြောင့်လည်း သမ္မာသမ္ဗုဒ္ဓ မည်တော်မူ၏၊ အသိဉာဏ် ‘ဝိဇ္ဇာ’ အကျင့် ‘စရဏ’နှင့် ပြည့်စုံတော်မူသော အကြောင်းကြောင့်လည်း ဝိဇ္ဇာစရဏသမ္ပန္န မည်တော်မူ၏၊ ကောင်းသော စကားကို ဆိုတော်မူ တတ်သော အကြောင်းကြောင့်လည်း သုဂတ မည်တော်မူ၏၊ လောကကို သိတော်မူသော အကြောင်းကြောင့်လည်း လောကဝိဒူ မည်တော်မူ၏၊ ဆုံးမထိုက်သူကို ဆုံးမတတ်သည့် အတုမဲ့ပုဂ္ဂိုလ် ဖြစ်တော်မူသော အကြောင်းကြောင့်လည်း အနုတ္တရောပုရိသဒမ္မသာရထိ မည်တော်မူ၏၊ နတ်လူတို့၏ ဆရာဖြစ်တော်မူသော အကြောင်းကြောင့်လည်း သတ္ထာဒေဝမနုဿာနံ မည်တော်မူ၏၊ (သစ္စာလေးပါးတရားတို့ကို) သိစေတော်မူသော အကြောင်းကြောင့်လည်း ဗုဒ္ဓ မည်တော်မူ၏၊ ဘုန်းတန်ခိုး ကြီးတော်မူသော အကြောင်းကြောင့်လည်း ဘဂဝါ မည်တော်မူ၏” ဟု (ယုံကြည်၏)။

ရဟန်းတို့ ဤသည်ကို ယုံကြည်မှု ‘သဒ္ဓါ’ အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ အားထုတ်မှု ‘ဝီရိယ’ အားဟူသည် အဘယ်နည်း။

ဤသာသနာတော်၌ အရိယာတပည့်သည် အကုသိုလ်တရားတို့ကို ပယ်ရန် ကုသိုလ်တရားတို့ကို ပြည့်စုံစေရန် ထက်သန်သော ဝီရိယရှိသည်ဖြစ်၍ နေ၏၊ အားနှင့်ပြည့်စုံ၏၊ မြဲမြံသော လုံ့လရှိ၏၊ ကုသိုလ်တရားတို့၌ တာဝန်ကို ပစ်ချထားခြင်း မရှိ။ ရဟန်းတို့ ဤသည်ကို အားထုတ်မှု ‘ဝီရိယ’ အားဟူ၍ဆိုအပ်၏။

ရဟန်းတို့ အောက်မေ့မှု ‘သတိ’ အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် သတိရှိ၏၊ လွန်ကဲ ရင့်ကျက်သော သတိနှင့် ပြည့်စုံ၏၊ ကြာမြင့်စွာက ပြုလုပ်ခဲ့သည်ကို လည်းကောင်း၊ ကြာမြင့်စွာက ပြောဆိုခဲ့သည်ကို လည်းကောင်း အောက်မေ့နိုင်၏၊ အဖန်တလဲလဲ အောက်မေ့နိုင်၏။ ရဟန်းတို့ ဤသည်ကို အောက်မေ့ခြင်း ‘သတိ’ အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ တည်ကြည်မှု 'သမာဓိ' အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် ကာမဂုဏ်တို့မှ ကင်းဆိတ်၍ သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်၍သာလျှင် ကြံစည်ခြင်း 'ဝိတက်'နှင့်တကွ ဖြစ်သော၊ သုံးသပ်ဆင်ခြင်ခြင်း ဝိစာရ'နှင့်တကွ ဖြစ်သော၊ 'ဝိဝေကဇ' ကင်းခြင်းကြောင့် ဖြစ်သော၊ နှစ်သိမ့်ခြင်း 'ပီတိ' ချမ်းသာခြင်း 'သုခ' ရှိသော ပဌမစျာန်သို့ ရောက်၍ နေ၏။

ဝိတက် ဝိစာရ ငြိမ်းခြင်းကြောင့် မိမိသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော၊ စိတ်၏ တည်ကြည်ခြင်း 'သမာဓိ'ကို ဖြစ်ပွားစေတတ်သော၊ ကြံစည်ခြင်း 'ဝိတက်' မရှိသော၊ သုံးသပ် ဆင်ခြင်ခြင်း 'ဝိစာရ' မရှိသော၊ တည်ကြည်ခြင်း 'သမာဓိ' ကြောင့် ဖြစ်သော၊ နှစ်သိမ့်ခြင်း 'ပီတိ' ချမ်းသာခြင်း 'သုခ' ရှိသော ဒုတိယစျာန်သို့ ရောက်၍ နေ၏။

နှစ်သိမ့်ခြင်း 'ပီတိ' ကိုလည်း မတပ်မက်ခြင်းကြောင့် သတိ, သမ္ပဇဉ်နှင့် ပြည့်စုံသည်ဖြစ်၍ လျစ်လျူရှုလျက်နေ၏၊ ချမ်းသာခြင်း 'သုခ' ကိုလည်း ကိုယ်ဖြင့် ခံစား၏၊ အကြင် (တတိယစျာန်) ကြောင့် ထိုသူကို "လျစ်လျူရှုသူ သတိရှိသူ ချမ်းသာစွာ နေလေ့ရှိသူ" ဟု အရိယာ (ပုဂ္ဂိုလ်)တို့သည် ပြောကြားကုန်၏၊ ထိုတတိယစျာန်သို့ ရောက်၍ နေ၏။

ချမ်းသာ ဆင်းရဲကို ပယ်ခြင်းကြောင့် လည်းကောင်း၊ ရှေးဦးကပင်လျှင် ဝမ်းသာခြင်း နှလုံးမသာခြင်းတို့၏ ချုပ်နှင့်ခြင်းကြောင့် လည်းကောင်း ဆင်းရဲ ချမ်းသာမရှိသော လျစ်လျူရှုမှု 'ဥပေက္ခာ' ကြောင့် ဖြစ်သည့် သတိ၏ စင်ကြယ်ခြင်းရှိသော စတုတ္ထစျာန်သို့ ရောက်၍ နေ၏။ ရဟန်းတို့ ဤသည်ကို တည်ကြည်မှု 'သမာဓိ' အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ သိမှု'ပညာ' အားဟူသည် အဘယ်နည်း။

ရဟန်းတို့ ဤသာသနာတော်၌ အရိယာတပည့်သည် ပညာရှိ၏၊ ဖြစ်မှု ပျက်မှုကို သိတတ်၍ ကိလေသာတို့ကို ဖောက်ခွဲနိုင်သည့် ဆင်းရဲ ကုန်ခန်းရာ နိဗ္ဗာန်သို့ ကောင်းစွာ ရောက်စေနိုင်သော မြတ်သော ပညာနှင့် ပြည့်စုံ၏။ ရဟန်းတို့ ဤသည်ကို သိမှု'ပညာ' အားဟူ၍ ဆိုအပ်၏။

ရဟန်းတို့ အားတို့သည် ဤငါးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၂ - ဗလဝဂ် ===

### ၅ - ဒဋ္ဌဗ္ဗသုတ်

၁၅။ ရဟန်းတို့ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ယုံကြည်မှု 'သဒ္ဓါ'အား၊ အားထုတ်မှု 'ဝီရိယ' အား၊ အောက်မေ့မှု 'သတိ' အား၊ တည်ကြည်မှု 'သမာဓိ' အား၊ သိမှု 'ပညာ' အားတို့တည်း။

ရဟန်းတို့ အဘယ်တို့၌ ယုံကြည်မှု 'သဒ္ဓါ' အားကို (အကြီးအမှူးဟူ၍) မှတ်အပ်သနည်း၊ သောတာပန်ဖြစ်ကြောင်း အင်္ဂါလေးမျိုးတို့၌ ယုံကြည်မှု 'သဒ္ဓါ' အားကို (အကြီးအမှူးဟူ၍) မှတ်အပ်၏။

ရဟန်းတို့ အဘယ်တို့၌ အားထုတ်မှု 'ဝီရိယ' အားကို မှတ်အပ်သနည်း၊ သမ္မပ္ပဓာန် လေးပါးတို့၌ အားထုတ်မှု 'ဝီရိယ' အားကို မှတ်အပ်၏။

ရဟန်းတို့ အဘယ်တို့၌ အောက်မေ့မှု 'သတိ' အားကို မှတ်အပ်သနည်း၊ သတိပဋ္ဌာန် လေးပါးတို့၌ အောက်မေ့မှု 'သတိ' အားကို မှတ်အပ်၏။

ရဟန်းတို့ အဘယ်တို့၌ တည်ကြည်မှု 'သမာဓိ' အားကို မှတ်အပ်သနည်း၊ ဈာန်လေးပါးတို့၌ တည်ကြည်မှု 'သမာဓိ' အားကို မှတ်အပ်၏။

ရဟန်းတို့ အဘယ်တို့၌ သိမှု'ပညာ' အားကို မှတ်အပ်သနည်း၊ အရိယသစ္စာလေးပါးတို့၌ သိမှု'ပညာ' အားကို မှတ်အပ်၏။

ရဟန်းတို့ အားတို့သည် ဤငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

=== ၂ - ဗလဝဂ် ===

## ၆ - ပုနကူဋသုတ်

၁၆။ ရဟန်းတို့ အားတို့သည် ဤငါးမျိုးတို့တည်း။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ယုံကြည်မှု 'သဒ္ဓါ'အား၊ အားထုတ်မှု 'ဝီရိယ'အား၊ အောက်မေ့မှု 'သတိ'အား၊ တည်ကြည်မှု 'သမာဓိ'အား၊ သိမှု'ပညာ'အားတို့တည်း။

ရဟန်းတို့ အားတို့သည် ဤငါးမျိုး တို့တည်း။

ရဟန်းတို့ ဤအားငါးမျိုးတို့တွင် ပညာအားသည် အမြတ်ဆုံးဖြစ်၏၊ (ကျန်သောအားတို့ကို) သိမ်းယူနိုင်၏၊ ပေါင်းစုနိုင်၏။ ရဟန်းတို့ အထွတ်ရှိသော အိမ်တွင် အထွတ်သည် အမြတ်ဆုံး ဖြစ်သကဲ့သို့၊ (အခြင်ရနယ်တို့ကို) သိမ်းကျုံး ယူနိုင် သကဲ့သို့၊ ပေါင်းစုနိုင် သကဲ့သို့၊ ရဟန်းတို့ ဤအတူသာလျှင် ဤအား ငါးမျိုးတို့တွင် ပညာအားသည် အမြတ်ဆုံးဖြစ်၏၊ (ကျန်သောအားတို့ကို) သိမ်းယူနိုင်၏၊ ပေါင်းစုနိုင်၏ ဟု (မိန့်တော်မူ၏)။

ဆဋ္ဌသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

=== ၂ - ဗလဝဂ် ===

## ၇ - ပဌမ ဟိတသုတ်

၁၇။ ရဟန်းတို့ တရား ငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မိမိ၏ အစီးအပွါး အလို့ငှါသာ ကျင့်၏၊ သူတစ်ပါး၏ အစီးအပွါး အလို့ငှါ မကျင့်။

အဘယ် တရား ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မိမိကား သီလနှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုမူ သီလနှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိကား သမာဓိနှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုမူ သမာဓိနှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိကား ပညာနှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုမူ ပညာနှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိကား (ကိလေသာမှ) လွတ်မြောက်ခြင်း 'ဝိမုတ္တိ' နှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုမူ (ကိလေသာမှ) လွတ်မြောက်ခြင်း 'ဝိမုတ္တိ' နှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိကား (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုမူ (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် ပြည့်စုံစေရန် မဆောက်တည်စေ။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မိမိ၏ အစီးအပွါး အလို့ငှါသာ ကျင့်၏၊ သူတစ်ပါး၏ အစီးအပွါး အလို့ငှါ မကျင့် ဟု (မိန့်တော်မူ၏)။

သတ္တမသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

=== ၂ - ဗလဝဂ် ===

## ၈ - ဒုတိယ ဟိတသုတ်

၁၈။ ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် သူတစ်ပါး၏ အစီးအပွါး အလို့ငှါသာ ကျင့်၏၊ မိမိ၏ အစီးအပွါး အလို့ငှါ မကျင့်။

အဘယ်တရား ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မိမိကား သီလနှင့် မပြည့်စုံ၊ သူတစ်ပါးကိုမူ သီလနှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏။ မိမိကား တည်ကြည်မှု 'သမာဓိ' နှင့် မပြည့်စုံ၊ သူတစ်ပါးကိုမူ သမာဓိနှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏။ မိမိကား ပညာနှင့် မပြည့်စုံ၊ သူတစ်ပါးကိုမူ ပညာနှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏။ မိမိကား (ကိလေသာမှ) လွတ်မြောက်မှု 'ဝိမုတ္တိ'နှင့် မပြည့်စုံ၊ သူတစ်ပါးကိုမူ (ကိလေသာမှ) လွတ်မြောက်မှု 'ဝိမုတ္တိ' နှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏။ မိမိကား (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် မပြည့်စုံ၊ သူတစ်ပါးကိုမူ (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် သူတစ်ပါး၏ အစီးအပွါး အလို့ငှါသာ ကျင့်၏၊ မိမိ၏ အစီးအပွါး အလို့ငှါ မကျင့် ဟု (မိန့်တော်မူ၏)။

အဋ္ဌမသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

=== ၂ - ဗလဝဂ် ===

## ၉ - တတိယ ဟိတသုတ်

၁၉။ ရဟန်းတို့ တရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မိမိ၏ အစီးအပွါး အလို့ငှါလည်း မကျင့်၊ သူတစ်ပါး၏ အစီးအပွါး အလို့ငှါလည်း မကျင့်။

အဘယ်တရား ငါးမျိုးတို့နည်းဟူမူ-

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မိမိလည်း သီလနှင့် မပြည့်စုံ၊ သူတစ်ပါးကိုလည်း သီလနှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိလည်း တည်ကြည်မှု 'သမာဓိ'နှင့် မပြည့်စုံ၊ သူတစ်ပါးကိုလည်း တည်ကြည်မှု 'သမာဓိ'နှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိလည်း ပညာနှင့် မပြည့်စုံ၊ သူတစ်ပါးကိုလည်း ပညာနှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိလည်း (ကိလေသာမှ) လွတ်မြောက်မှု 'ဝိမုတ္တိ'နှင့် မပြည့်စုံ၊ သူတစ်ပါးကိုလည်း ကိလေသာမှ လွတ်မြောက်မှု 'ဝိမုတ္တိ'နှင့် ပြည့်စုံစေရန် မဆောက်တည်စေ။ မိမိလည်း (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ'

ဉာဏ်အမြင်နှင့် မပြည့်စုံ၊ သူတစ်ပါးကိုလည်း (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် ပြည့်စုံစေရန် မဆောက်တည်စေ။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မိမိ၏ အစီးအပွါး အလို့ငှါလည်း မကျင့်၊ သူတစ်ပါး၏ အစီးအပွါး အလို့ငှါလည်း မကျင့် ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၂ - ဗလဝဂ် ===

## ၁၀ - စတုတ္ထဟိတသုတ်

၂၀။ ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မိမိ၏ အစီးအပွါး အလို့ငှါလည်း ကျင့်၏၊ သူတစ်ပါး၏ အစီးအပွါး အလို့ငှါလည်း ကျင့်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ-

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မိမိလည်း သီလနှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုလည်း သီလနှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏၊ မိမိလည်း တည်ကြည်မှု 'သမာဓိ' နှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုလည်း တည်ကြည်မှု 'သမာဓိ' နှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏၊ မိမိလည်း ပညာနှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုလည်း ပညာနှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏၊ မိမိလည်း (ကိလေသာမှ) လွတ်မြောက်မှု 'ဝိမုတ္တိ' နှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုလည်း (ကိလေသာမှ) လွတ်မြောက်မှု 'ဝိမုတ္တိ'နှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏၊ မိမိလည်း (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် ပြည့်စုံ၏၊ သူတစ်ပါးကိုလည်း (ကိလေသာမှ) လွတ်မြောက်မှုကို ဆင်ခြင်တတ်သော 'ပစ္စဝေက္ခဏာ' ဉာဏ်အမြင်နှင့် ပြည့်စုံစေရန် ဆောက်တည်စေ၏။

ရဟန်းတို့ ဤတရားငါးမျိုးနှင့် ပြည့်စုံသော ရဟန်းသည် မိမိ၏ အစီးအပွါး အလို့ငှါလည်း ကျင့်၏၊ သူတစ်ပါး၏ အစီးအပွါး အလို့ငှါလည်း ကျင့်၏ ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**နှစ်ခုမြောက် ဗလဝဂ် ပြီး၏။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၃ - ပဉ္စင်္ဂီကဝဂ် ===

### ၁ - ပဉ္စမ အဂါရဝသုတ်

၂၁။ ရဟန်းတို့ ရိုသေမှု, တုပ်ဝပ်မှု, တူသော အသက်မွေးမှု မရှိသော ထိုရဟန်းသည် သီတင်းသုံးဖော်တို့၌ မြတ်သော ကျင့်ဝတ်တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် စင်စစ် မရှိနိုင်ချေ။

မြတ်သော ကျင့်ဝတ် တရားကို မဖြည့်ကျင့်မူ၍ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို မဖြည့်ကျင့်မူ၍ သီလတို့ကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

သီလတို့ကို မဖြည့်ကျင့်မူ၍ မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' ကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' ကို မဖြည့်ကျင့်မူ၍ မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' ကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

ရဟန်းတို့ ရိုသေမှု, တုပ်ဝပ်မှု, တူသော အသက်မွေးမှု ရှိသော ထိုရဟန်းသည် သီတင်းသုံးဖော်တို့၌ မြတ်သော ကျင့်ဝတ်တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် စင်စစ် ရှိနိုင်၏။

မြတ်သော ကျင့်ဝတ်တရားကို ဖြည့်ကျင့်လတ်သော် ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏။

ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို ဖြည့်ကျင့်လတ်သော် သီလတို့ကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏။

သီလတို့ကို ဖြည့်ကျင့်လတ်သော် မှန်ကန်သော အယူ'သမ္မာဒိဋ္ဌိ' ကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏။

မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' ကို ဖြည့်ကျင့်လတ်သော် မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' ကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤ အကြောင်းမျိုးသည် ရှိနိုင်၏ ဟု (မိန့်တော်မူ၏)။

ပဉ္စမသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၃ - ပဉ္စင်္ဂီကဝဂ် ===

### ၂ - ဒုတိယ အဂါရဝသုတ်

၂၂။ ရဟန်းတို့ ရိုသေမှု, တုပ်ဝပ်မှု, တူသော အသက်မွေးမှု မရှိသော ထိုရဟန်းသည် သီတင်းသုံးဖော်တို့၌ မြတ်သော ကျင့်ဝတ်တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်ချေ။

မြတ်သော ကျင့်ဝတ်တရားကို မဖြည့်ကျင့်မူ၍ ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို မဖြည့်ကျင့်မူ၍ သီလအစုကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

သီလအစုကို မဖြည့်ကျင့်မူ၍ သမာဓိအစုကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

သမာဓိအစုကို မဖြည့်ကျင့်မူ၍ ပညာအစုကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် မရှိနိုင်။

ရဟန်းတို့ ရိုသေမှု တုပ်ဝပ်မှု တူသော အသက်မွေးမှု ရှိသော ထိုရဟန်းသည် သီတင်းသုံးဖော်တို့၌ မြတ်သော ကျင့်ဝတ်တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏။

မြတ်သော ကျင့်ဝတ်တရားကို ဖြည့်ကျင့်လတ်သော် ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤ အကြောင်းမျိုးသည် ရှိနိုင်၏။

ကျင့်ဆဲ 'သေက္ခ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော တရားကို ဖြည့်ကျင့်လတ်သော် သီလအစုကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏။

သီလအစုကို ဖြည့်ကျင့်လတ်သော် သမာဓိအစုကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏။

သမာဓိအစုကို ဖြည့်ကျင့်လတ်သော် ပညာအစုကို ဖြည့်ကျင့်လိမ့်မည် ဟူသော ဤအကြောင်းမျိုးသည် ရှိနိုင်၏ ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၃ - ပဉ္စင်္ဂကဝဂ် ===

## ၃ - ဥပက္ကိလေသသုတ်

၂၃။ ရဟန်းတို့ ရွှေ၏ အညစ်အကြေးတို့သည် ဤငါးမျိုးတို့တည်း။

ယင်းအညစ်အကြေးတို့ဖြင့် ညစ်နွမ်းသော ရွှေသည် နူးညံ့လည်း မနူးညံ့၊ (လက်ကောက် နားတောင်းစသည်) ပြုလုပ်၍လည်း မဖြစ်၊ အရောင်လည်း မထွက်၊ ကြွပ်ဆတ်သော သဘောလည်း ရှိ၏၊ အလုပ်ခွင်သို့လည်း ကောင်းစွာ မရောက်နိုင်။

ငါးမျိုးတို့ ဟူသည် အဘယ်တို့နည်းဟူမူ-

သံ၊ ကြေး၊ သလွဲစင် (ခဲမဖြူ)၊ သလွဲမည်း (ခဲပုပ်)၊ ငွေတို့တည်း။

ရဟန်းတို့ ဤသည်ကား ရွှေ၏ အညစ်အကြေးငါးမျိုးတို့တည်း၊ ယင်းအညစ်အကြေးတို့ဖြင့် ညစ်နွမ်းသော ရွှေသည် နူးညံ့လည်း မနူးညံ့၊ (လက်ကောက် နားတောင်းစသည်) ပြုလုပ်၍လည်း မဖြစ်၊ အရောင်လည်း မထွက်၊ ကြွပ်ဆတ်သော သဘောလည်း ရှိ၏၊ အလုပ်ခွင်သို့လည်း ကောင်းစွာ မရောက်နိုင်။

ရဟန်းတို့ ဤအညစ်အကြေး ငါးမျိုးတို့မှ ကင်းလွတ်သောအခါ၌ မူကား ထိုရွှေသည် နူးညံ့လည်း နူးညံ့၏၊ (လက်ကောက် နားတောင်းစသည်) ပြုလုပ်၍လည်း ဖြစ်၏၊ အရောင်လည်း ထွက်၏၊ ကြွပ်ဆတ်သော သဘောလည်း မရှိတော့ချေ၊ အလုပ်ခွင်သို့လည်း ကောင်းစွာ ရောက်နိုင်၏၊ လက်စွပ်ဖြင့်ဖြစ်စေ နားတောင်းဖြင့်ဖြစ်စေ လည်ရွဲ တန်ဆာဖြင့်ဖြစ်စေ ရွှေပန်းခိုင်ဖြင့်ဖြစ်စေ မည်သည့် တန်ဆာ အထူးဖြင့် မဆို၊ အကယ်၍ အလိုရှိခဲ့မူ ထိုရွှေ၏ ထိုအလိုရှိရာ အကျိုးကို ပြီးစေနိုင်၏။

ရဟန်းတို့ ဤအတူသာလျှင် စိတ်၏ အညစ်အကြေးတို့သည် ဤငါးမျိုးတို့တည်း။

ယင်းအညစ်အကြေးတို့ဖြင့် ညစ်နွမ်းသော စိတ်သည် နူးညံ့လည်း မနူးညံ့၊ ပြုလုပ်၍လည်း မဖြစ်၊ အရောင်လည်း မထွက်၊ ကြွပ်ဆတ်သော သဘောလည်း ရှိ၏၊ အာသဝေါတရားတို့ ကုန်ခန်းရန်လည်း ကောင်းစွာ မတည်ကြည်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ကာမဂုဏ်ကို လိုလားမှု 'ကာမစ္ဆန္ဒ'၊ ပျက်စီးစေလိုမှု 'ဗျာပါဒ'၊ လေးလံထိုင်းမှိုင်းမှု 'ထိနမိဒ္ဓ'၊ ပျံ့လွင့်မှု နောင်တပူပန်မှု 'ဥဒ္ဓစ္စ ကုက္ကုစ္စ'၊ မဝေခွဲနိုင်မှု 'ဝိစိကိစ္ဆာ' တို့တည်း။

ရဟန်းတို့ ဤသည်တို့ကား စိတ်၏ အညစ်အကြေးငါးမျိုးတို့တည်း။

ယင်းအညစ်အကြေးတို့ဖြင့် ညစ်နွမ်းသော စိတ်သည် နူးညံ့လည်း မနူးညံ့၊ ပြုလုပ်၍လည်း မဖြစ်၊ အရောင်လည်း မထွက်၊ ကြွပ်ဆတ်သော သဘောလည်း ရှိ၏၊ အာသဝေါတရားတို့ ကုန်ခန်းရန်လည်း ကောင်းစွာ မတည်ကြည်။

ရဟန်းတို့ အညစ်အကြေးငါးမျိုးတို့မှ ကင်းလွတ်သော အခါ၌မူကား ထိုစိတ်သည် နူးညံ့လည်း နူးညံ့၏၊ ပြုလုပ်၍လည်း ဖြစ်၏၊ အရောင်လည်း ထွက်၏၊ ကြွပ်ဆတ်သော သဘောလည်း မရှိ၊ အာသဝေါတရားတို့ ကုန်ခန်းရန်လည်း ကောင်းစွာ တည်ကြည်၏၊ ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက် ပြုအပ်သည့် တစ်စုံတစ်ခုသော တရားကို ထူးသောဉာဏ်ဖြင့် သိ၍ မျက်မှောက်ပြုရန် စိတ်ကို ညွတ်စေ၏၊ (ရှေးဘဝအကြောင်းနှင့် ယခုဘဝ အဘိညာဉ်၏ အခြေခံ စျာန်စသော) အကြောင်း ရှိလတ်သော် ထိုထို အရာ၌ပင် သက်သေထိုက်သည့် အဖြစ် (ဣဒ္ဓိဝိဓအဘိညာဉ်စသည်)သို့လည်း ရောက်၏။

"(ငါသည်) များပြားသော တန်ခိုး ဖန်ဆင်းခြင်းကို ပြီးစေလို၏၊ တစ်ယောက်တည်း ဖြစ်လျက်လည်း အများ ဖြစ်လို၏၊ အများဖြစ်လျက်လည်း တစ်ယောက်တည်း ဖြစ်လို၏၊ ကိုယ်ထင်ရှား ဖြစ်စေ လို၏၊ ကိုယ်ပျောက်စေ လို၏၊ နံရံတစ်ဖက် တံတိုင်းတစ်ဖက် တောင်တစ်ဖက်သို့ မထိမငြိဘဲ ကောင်းကင်၌ ကဲ့သို့ သွားလို၏၊ မြေ၌လည်း ငုပ်ခြင်း ပေါ်ခြင်းကို ရေ၌ ကဲ့သို့ ပြုလို၏၊ ရေ၌လည်း မကွဲစေဘဲ မြေ၌ ကဲ့သို့ သွားလို၏၊ ကောင်းကင်၌လည်း ထက်ဝယ် ဖွဲ့ခွေလျက် အတောင်ရှိသော ငှက်ကဲ့သို့ သွားလို၏၊ ဤသို့ တန်ခိုး အာနုဘော် ကြီးကုန်သော ဤလနေတို့ကိုလည်း လက်ဖြင့် သုံးသပ်လို၏၊ ဆုပ်ကိုင်လို၏၊ ဗြဟ္မာ့ပြည် တိုင်အောင်လည်း မိမိကိုယ်ကို (စိတ်) အလိုအတိုင်း ဖြစ်စေလို၏" ဟု ထိုသူသည် အကယ်၍ အလိုရှိခဲ့မူ (အခြေခံ) အကြောင်း ရှိလတ်သော် ထိုထို အလိုရှိရာ၌ပင် သက်သေထိုက်သည့် အဖြစ် (ဣဒ္ဓိဝိဓအဘိညာဉ်)သို့ ရောက်၏။

"(ငါသည်) အထူးသဖြင့် စင်ကြယ်သော လူတို့၏ နားအကြားကို လွန်သော နတ်နားနှင့် တူသော နား 'ဒိဗ္ဗသောတ' ဖြင့် နတ်၌လည်း ဖြစ်ကုန် လူ၌လည်း ဖြစ်ကုန်သော ဝေးသည်လည်း ဖြစ်ကုန် နီးသည်လည်း ဖြစ်ကုန်သော နှစ်မျိုးသော အသံတို့ကို ကြားလို၏" ဟု ထိုသူသည် အကယ်၍ အလိုရှိခဲ့မူ (အခြေခံ) အကြောင်း ရှိလတ်သော် ထိုထိုအလိုရှိရာ၌ပင် သက်သေထိုက်သည့် အဖြစ် (ဒိဗ္ဗသောတ အဘိညာဉ်)သို့ ရောက်၏။

"(ငါသည်) တစ်ပါးသော သတ္တဝါ တစ်ပါးသော ပုဂ္ဂိုလ်တို့၏ စိတ်ကို (မိမိ) စိတ်ဖြင့် ပိုင်းခြား၍ သိလို၏၊ စွဲမက်ခြင်း 'ရာဂ'နှင့်တကွသော စိတ်ကိုလည်း "စွဲမက်ခြင်း 'ရာဂ'နှင့်တကွသော စိတ်" ဟု သိလို၏၊ စွဲမက်ခြင်း 'ရာဂ' ကင်းသော စိတ်ကိုလည်း "စွဲမက်ခြင်း 'ရာဂ' ကင်းသော စိတ်" ဟု သိလို၏၊ အမျက်ထွက်ခြင်း 'ဒေါသ' နှင့်တကွသော စိတ်ကိုလည်း "အမျက်ထွက်ခြင်း 'ဒေါသ' နှင့်တကွသော စိတ်" ဟု သိလို၏၊ အမျက်ထွက်ခြင်း 'ဒေါသ' ကင်းသော စိတ်ကိုလည်း "အမျက်ထွက်ခြင်း 'ဒေါသ' ကင်းသောစိတ်" ဟု သိလို၏၊ တွေဝေခြင်း 'မောဟ' နှင့်တကွသော စိတ်ကိုလည်း "တွေဝေခြင်း 'မောဟ' နှင့်တကွသော စိတ်" ဟု သိလို၏၊ တွေဝေခြင်း 'မောဟ' ကင်းသော စိတ်ကိုလည်း "တွေဝေခြင်း 'မောဟ' ကင်းသော စိတ်" ဟု သိလို၏၊ ကျုံ့သော စိတ်ကိုလည်း "ကျုံ့သော စိတ်" ဟု သိလို၏၊ ပျံ့လွင့်သော စိတ်ကိုလည်း "ပျံ့လွင့်သောစိတ်" ဟု သိလို၏၊ မြတ်သည်၏ အဖြစ်သို့ ရောက်သော 'မဟဂ္ဂုတ်' စိတ်ကိုလည်း "မြတ်သည်၏ အဖြစ်သို့ ရောက်သော 'မဟဂ္ဂုတ်' စိတ်" ဟု သိလို၏၊ မြတ်သည်၏ အဖြစ်သို့ မရောက်သော စိတ်ကိုလည်း "မြတ်သည်၏ အဖြစ်သို့ မရောက်သော စိတ်" ဟု သိလို၏၊ သာလွန်သော တရားရှိသော စိတ်ကိုလည်း "သာလွန်သော တရားရှိသော စိတ်" ဟု သိလို၏၊ သာလွန်သော တရားမရှိသော စိတ်ကိုလည်း "သာလွန်သော တရားမရှိသော စိတ်" ဟု သိလို၏၊ တည်ကြည်သော စိတ်ကိုလည်း "တည်ကြည်သောစိတ်" ဟု သိလို၏၊ မတည်ကြည်သော စိတ်ကိုလည်း "မတည်ကြည်သော စိတ်" ဟု သိလို၏၊ လွတ်မြောက်သော စိတ်ကိုလည်း "လွတ်မြောက်သောစိတ်" ဟု သိလို၏၊ မလွတ်မြောက်သော စိတ်ကိုလည်း "မလွတ်မြောက်သောစိတ်" ဟု သိလို၏ ဟု ထိုသူသည် အကယ်၍ အလိုရှိခဲ့မူ (အခြေခံ) အကြောင်း ရှိလတ်သော် ထိုထို အလိုရှိရာ၌ပင် သက်သေထိုက်သည့် အဖြစ် (ပရစိတ္တဝိဇာနနအဘိညာဉ်) သို့ ရောက်၏။

"(ငါသည်) များပြားသော ရှေး၌ ဖြစ်ဖူးသည်ကို အောက်မေ့လို၏။ ဤသည်ကား အဘယ်နည်း - တစ်ဘဝကို လည်းကောင်း၊ နှစ်ဘဝတို့ကို လည်းကောင်း၊ သုံးဘဝတို့ကို လည်းကောင်း၊ လေးဘဝတို့ကို လည်းကောင်း၊ ငါးဘဝတို့ကို လည်းကောင်း၊ ဆယ်ဘဝတို့ကို လည်းကောင်း၊ ဘဝနှစ်ဆယ်တို့ကို လည်းကောင်း၊ ဘဝသုံးဆယ်တို့ကို လည်းကောင်း၊ ဘဝလေးဆယ်တို့ကို လည်းကောင်း၊ ဘဝငါးဆယ်တို့ကို လည်းကောင်း၊ ဘဝတစ်ရာကို လည်းကောင်း၊ ဘဝတစ်ထောင်ကို လည်းကောင်း၊ ဘဝတစ်သိန်းကို လည်းကောင်း၊ များပြားသော ပျက်ကပ်တို့ကို လည်းကောင်း၊ များပြားသော ဖြစ်ကပ်တို့ကို လည်းကောင်း၊ များပြားသော ပျက်ကပ် ဖြစ်ကပ်တို့ကို လည်းကောင်း ဤမည်သော ဘဝ၌ (ငါသည်) 'ဤသို့သော အမည် ဤသို့သောအနွယ် ဤသို့သော အဆင်း ဤသို့သော အစာ ဤသို့သော ချမ်းသာ ဆင်းရဲ

ခံစားခြင်း ဤသို့သော အသက် အပိုင်းအခြား ရှိခဲ့၏၊ ထို(ငါ)သည် ထိုဘဝမှ သေခဲ့၍ ဤမည်သော ဘဝ၌ ဖြစ်ပြန်၏၊ ထိုဘဝ၌လည်း ဤသို့သော အမည် ဤသို့သော အနွယ် ဤသို့သော အဆင်း ဤသို့သော အစာ ဤသို့သော ချမ်းသာ ဆင်းရဲခံစားခြင်း ဤသို့သော အသက် အပိုင်းအခြား ရှိခဲ့၏၊ ထို (ငါ)သည် ထိုဘဝမှ သေခဲ့၍ ဤဘဝ၌ ဖြစ်ပြန်၏" ဟု ဤသို့ အခြင်းအရာ (အဖြစ်သနစ်) နှင့်တကွ ညွှန်ပြဖွယ် (အမည်အနွယ်) နှင့်တကွ များပြားသော ရှေး၌ ဖြစ်ဖူးသည်ကို အောက်မေ့လို၏" ဟု ထိုသူသည် အကယ်၍ အလိုရှိခဲ့မူ (အခြေခံ) အကြောင်း ရှိလတ်သော် ထိုထို အလိုရှိရာ၌ပင် သက်သေထိုက်သည့် အဖြစ် (ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်) သို့ ရောက်၏။

"(ငါသည်) အထူးသဖြင့် စင်ကြယ်သော လူတို့၏ မျက်စိအမြင်ထက် သာလွန်သော နတ်မျက်စိနှင့် တူသော မျက်စိ 'ဒိဗ္ဗစက္ခု' ဖြင့် သေဆဲ သတ္တဝါ ဖြစ်ဆဲ သတ္တဝါ ယုတ်သော သတ္တဝါ မြတ်သော သတ္တဝါ အဆင်းလှသော သတ္တဝါ အဆင်းမလှသော သတ္တဝါ ကောင်းသော လားရာရှိသော သတ္တဝါ မကောင်းသော လားရာရှိသော သတ္တဝါတို့ကို မြင်လို၏၊ ကံအလျောက် ဖြစ်သော သတ္တဝါတို့ကို သိလို၏၊ 'အချင်းတို့ ဤသတ္တဝါတို့သည် ကာယဒုစရိုက် ဝစီဒုစရိုက် မနောဒုစရိုက်တို့နှင့် ပြည့်စုံကုန်၏၊ အရိယာတို့ကို စွပ်စွဲကုန်၏၊ မှားသော အယူရှိကုန်၏၊ မှားသော အယူဖြင့် ပြုအပ်သော ကံရှိကုန်၏၊ ထို(သတ္တဝါ)တို့သည် ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ချမ်းသာ ကင်းသော မကောင်းသော လားရာ ပျက်စီး၍ ကျရောက်ရာ ဖြစ်သော ငရဲသို့ ရောက်ကုန်၏၊ အချင်းတို့ ဤသတ္တဝါတို့သည်ကား ကာယသုစရိုက် ဝစီသုစရိုက် မနောသုစရိုက်တို့နှင့် ပြည့်စုံကုန်၏၊ အရိယာတို့ကို မစွပ်စွဲတတ်ကုန်၊ မှန်သော အယူရှိကုန်၏၊ မှန်သော အယူဖြင့် ပြုအပ်သော ကံ ရှိကုန်၏၊ ထို(သတ္တဝါ)တို့သည် ကိုယ်ခန္ဓာ ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော လားရာ နတ်ပြည်သို့ ရောက်ကုန်၏'။ ဤသို့လျှင် အထူးသဖြင့် စင်ကြယ် သော လူတို့၏ မျက်စိအမြင်ထက် သာလွန်သော နတ်မျက်စိနှင့် တူသော မျက်စိ 'ဒိဗ္ဗစက္ခု' ဖြင့် သေဆဲ သတ္တဝါ ဖြစ်ဆဲ သတ္တဝါ ယုတ်သော သတ္တဝါ မြတ်သော သတ္တဝါ အဆင်းလှသော သတ္တဝါ အဆင်းမလှသော သတ္တဝါ ကောင်းသော လားရာရှိသေ ာသတ္တဝါ မကောင်းသော လားရာရှိသော သတ္တဝါတို့ကို မြင်လို၏၊ ကံအလျောက် ဖြစ်သော သတ္တဝါတို့ကို သိလို၏" ဟု ထိုသူသည် အကယ်၍ အလိုရှိခဲ့မူ (အခြေခံ) အကြောင်း ရှိလတ်သော် ထိုထို အလိုရှိရာ၌ပင် သက်သေထိုက်သည့် အဖြစ် (ဒိဗ္ဗစက္ခုအဘိညာဉ်)သို့ ရောက်၏။

"အာသဝေါ တရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါတရား မရှိသော (ကိလေသာတို့မှ) လွတ်မြောက်သော 'အရဟတ္တဖိုလ်စိတ်'နှင့် (ကိလေသာတို့မှ) လွတ်မြောက်သော 'အရဟတ္တဖိုလ်' ပညာကို ယခုဘဝ၌ပင် ကိုယ်တိုင်ထူးသော ဉာဏ်ဖြင့် မျက်မှောက်ပြုလျက် ရောက်၍ နေလို၏" ဟု ထိုသူသည် အကယ်၍ အလိုရှိခဲ့မူ (အခြေခံ) ကြောင်း ရှိလတ်သော် ထိုထို အလိုရှိရာ၌ပင် သက်သေထိုက်သည့် အဖြစ် (အရဟတ္တဖလသမာပတ်)သို့ ရောက်၏ ဟု မိန့်တော်မူ၏။

**တတိယသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === ၃ - ပဥ္စင်္ဂါကဝဂ် ===

### ၄ - ဒုသီလသုတ်

၂၄။ ရဟန်းတို့ သီလ ပျက်စီးသော ဒုသီလပုဂ္ဂိုလ်အား မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သည် အကြောင်းချို့တဲ့၏။

သမ္မာသမာဓိ မရှိလတ်သော် သမ္မာသမာဓိ ပျက်စီးသူအား ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ် အမြင်သည် အကြောင်း ချို့တဲ့၏၊ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ်အမြင် ပျက်စီးလတ်သော် ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ်အမြင် ပျက်စီးသူအား ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှု အကြောင်း ချို့တဲ့၏၊ ငြီးငွေ့မှု စွဲမက်ခြင်းကင်းမှု မရှိလတ်သော် ငြီးငွေ့မှု စွဲမက်ခြင်းကင်းမှု ပျက်စီးသူအား (ကိလေသာမှ) လွတ်မြောက်မှုနှင့် လွတ်မြောက်မှုကို သိသော ဉာဏ်အမြင်သည် အကြောင်း ချို့တဲ့၏။

ရဟန်းတို့ သစ်ပင်သည် အခက် အရွက် ပျက်စီးခဲ့မူ ယင်းသစ်ပင်၏ အပွေးသည်လည်း ပြည့်စုံခြင်းသို့ မရောက်၊ အခွံ အခေါက်သည်လည်း ပြည့်စုံခြင်းသို့ မရောက်၊ အကာသည်လည်း ပြည့်စုံခြင်းသို့ မရောက်၊ အနှစ်သည်လည်း ပြည့်စုံခြင်းသို့ မရောက် သကဲ့သို့၊ ရဟန်းတို့ ဤအတူပင် သီလ ပျက်စီးသော ဒုသီလပုဂ္ဂိုလ်အား မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သည် အကြောင်းချို့တဲ့၏၊ သမ္မာသမာဓိ မရှိလတ်သော် သမ္မာသမာဓိ ပျက်စီးသူအား ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ်အမြင်သည် အကြောင်း ချို့တဲ့၏။ ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ်အမြင် မရှိလတ်သော် ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ်အမြင် ပျက်စီးသူအား ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှုသည် အကြောင်း ချို့တဲ့၏၊ ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှု မရှိလတ်သော် ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှု ချို့တဲ့သူအား (ကိလေသာမှ) လွတ် မြောက်မှုနှင့် လွတ်မြောက်မှုကို သိမြင်တတ်သော ဉာဏ်အမြင်သည် အကြောင်း ချို့တဲ့၏။

ရဟန်းတို့ သီလနှင့် ပြည့်စုံသော 'သီလဝန္တ' ပုဂ္ဂိုလ်အား မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သည် အကြောင်း ပြည့်စုံ၏၊ သမ္မာသမာဓိ ရှိလတ်သော် သမ္မာသမာဓိနှင့် ပြည့်စုံသောသူအား ဟုတ်တိုင်းမှန်စွာ သိသော ဉာဏ်အမြင်သည် အကြောင်း ပြည့်စုံ၏၊ဟုတ်တိုင်းမှန်စွာ သိသော ဉာဏ်အမြင် ရှိလတ်သော် ဟုတ်တိုင်းမှန်စွာ သိသော ဉာဏ်အမြင်နှင့် ပြည့်စုံသူအား ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှုသည် အကြောင်း ပြည့်စုံ၏၊ ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှု ရှိလတ်သော် ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှုနှင့် ပြည့်စုံသောသူအား (ကိလေသာမှ) လွတ်မြောက်မှုနှင့် လွတ်မြောက်မှုကို သိတတ်သော ဉာဏ်အမြင်သည် အကြောင်း ပြည့်စုံ၏။

ရဟန်းတို့ သစ်ပင်သည် အခက် အရွက်နှင့် ပြည့်စုံခဲ့မူ ယင်းသစ်ပင်၏ အပွေး အခွံ အကာ အနှစ်တို့သည် ပြည့်စုံခြင်းသို့ ရောက်ကုန် သကဲ့သို့၊ ရဟန်းတို့ ဤအတူပင် သီလနှင့် ပြည့်စုံသော 'သီလဝန္တ' ပုဂ္ဂိုလ်အား မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ'သည် အကြောင်း ပြည့်စုံ၏၊ သမ္မာသမာဓိ ရှိလတ်သော် သမ္မာသမာဓိနှင့် ပြည့်စုံသော သူအား ဟုတ်တိုင်းမှန်စွာ သိမြင်သော ဉာဏ်အမြင်သည် အကြောင်း ပြည့်စုံ၏။ ဟုတ်တိုင်းမှန်စွာ သိမြင်တတ်သော ဉာဏ်အမြင် ရှိလတ်သော် ဟုတ်တိုင်းမှန်စွာ သိသော ဉာဏ်အမြင်နှင့် ပြည့်စုံသူအား ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှုသည် အကြောင်း ပြည့်စုံ၏၊ ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှု ရှိလတ်သော် ငြီးငွေ့မှု စွဲမက်ခြင်း ကင်းမှုနှင့် ပြည့်စုံသော သူအား (ကိလေသာမှ) လွတ်မြောက်မှုနှင့် လွတ်မြောက်မှုကို သိမြင်တတ်သော ဉာဏ်အမြင်သည် အကြောင်း ပြည့်စုံ၏ ဟု မိန့်တော်မူ၏။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === ၃ - ပဉ္စင်္ဂိကဝဂ် ===

### ၅ - အနုဂ္ဂဟိတသုတ်

၂၅။ ရဟန်းတို့ အကြောင်းငါးမျိုးတို့ဖြင့် ချီးမြှောက်အပ်သည့် မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' သည် စိတ်၏ (ကိလေသာမှ) လွတ်မြောက်မှု (မဂ်ဖိုလ်သမာဓိ) အကျိုးလည်း ရှိ၏၊ စိတ်၏ (ကိလေသာမှ) လွတ်မြောက်မှု (မဂ်ဖိုလ်သမာဓိ) အကျိုးအာနိသင်လည်း ရှိ၏၊ ပညာ၏ (ကိလေသာမှ) လွတ်မြောက်မှု အကျိုးလည်း ရှိ၏။ ပညာ၏ (ကိလေသာမှ) လွတ်မြောက်မှု အကျိုး အာနိသင်လည်း ရှိ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' ကို

သီလဖြင့်လည်း ချီးမြှောက်အပ်၏။

အကြားအမြင်ဖြင့်လည်း ချီးမြှောက်အပ်၏။

ဆွေးနွေးမှုဖြင့်လည်း ချီးမြှောက်အပ်၏။

သမထဖြင့်လည်း ချီးမြှောက်အပ်၏။

ဝိပဿနာဖြင့်လည်း ချီးမြှောက်အပ်၏။

ရဟန်းတို့ ဤအကြောင်းငါးမျိုးတို့ဖြင့် ချီးမြှောက်အပ်သော မှန်ကန်သောအယူ 'သမ္မာဒိဋ္ဌိ' သည် စိတ်၏ (ကိလေသာမှ) လွတ်မြောက်မှု အကျိုးလည်း ရှိ၏၊ စိတ်၏ (ကိလေသာမှ) လွတ်မြောက်မှု အကျိုး အာနိသင်လည်း ရှိ၏၊ ပညာ၏ (ကိလေသာမှ) လွတ်မြောက်မှု အကျိုးလည်း ရှိ၏။ ပညာ၏ (ကိလေသာမှ) လွတ်မြောက်မှု အကျိုး အာနိသင်လည်း ရှိ၏ ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

### ၂ - ဥဿင်္ကီတသုတ်

၁၀၂။ ရဟန်းတို့ တရား ငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် ရဟန္တာပင် ဖြစ်လျှင်မူလည်း "ယုတ်မာသော ရဟန်း" ဟူ၍ ရွံရှာအပ် ယုံမှားအပ်သူ ဖြစ်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ-

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -

ပြည့်တန်ဆာမ (အိမ်) လျှင် ကျက်စားရာရှိ၏၊

မုဆိုးမ (အိမ်) လျှင် ကျက်စားရာရှိ၏၊

အပျိုကြီး (အိမ်) လျှင် ကျက်စားရာရှိ၏၊

ပဏ္ဍုက် (အိမ်) လျှင် ကျက်စားရာရှိ၏၊

ရဟန်းမိန်းမ (ကျောင်း) လျှင် ကျက်စားရာရှိ၏၊

ရဟန်းတို့ ဤတရား ငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် ရဟန္တာပင် ဖြစ်လျှင်မူလည်း "ယုတ်မာသော ရဟန်း" ဟူ၍ ရွံရှာအပ် ယုံမှားအပ်သူ ဖြစ်၏ ဟု (မိန့်တော်မူ၏)။

ဒုတိယသုတ်။

------

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

### ၃ - မဟာစောရသုတ်

၁၀၃။ ရဟန်းတို့ အင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော ခိုးသူကြီးသည် အိမ်ကိုသော်လည်း ဖောက်ထွင်း၏၊ ရွာကိုသော်လည်း တိုက်ခိုက် လုယူ၏၊ တစ်အိမ်တည်းကိုသော်လည်း တိုက်ခိုက် လုယူ၏၊ လမ်းခရီး၌ စောင့်၍သော်လည်း တိုက်ခိုက် လုယူ၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤလောက၌ ခိုးသူကြီးသည်-

မညီညွတ်သော အရပ်ကိုသော်လည်း အမှီရ၏။

တောအုပ်ကိုသော်လည်း အမှီရ၏။

အားကြီးသူကိုသော်လည်း အမှီရ၏။

ပစ္စည်းဥစ္စာကိုသော်လည်း စွန့်ကြဲလေ့ရှိ၏။

တစ်ယောက်တည်းသော်လည်း သွားလာတတ်၏။

ရဟန်းတို့ အဘယ်သို့လျှင် ခိုးသူကြီးသည် မညီညွတ်သော အရပ်ကို အမှီရသနည်း။

ရဟန်းတို့ ဤလောက၌ ခိုးသူကြီးသည် သွားလာ ကူးခက်သော မြစ်ကိုသော် လည်းကောင်း၊ မညီညွတ်သော တောင်ကိုသော် လည်းကောင်း အမှီရ၏။

ရဟန်းတို့ ဤသို့လျှင် ခိုးသူကြီးသည် မညီညွတ်သော အရပ်ကို အမှီရ၏။

ရဟန်းတို့ အဘယ်သို့လျှင် ခိုးသူကြီးသည် တောအုပ်ကို အမှီရသနည်း။

ရဟန်းတို့ ဤလောက၌ ခိုးသူကြီးသည် မြက်တောကိုသော် လည်းကောင်း၊ သစ်တောကိုသော် လည်းကောင်း၊ ထူထဲသော တောအုပ်ကိုသော် လည်းကောင်း၊ တောအုပ်ကြီးကိုသော် လည်းကောင်း အမှီရ၏။

ရဟန်းတို့ ဤသို့လျှင် ခိုးသူကြီးသည် တောအုပ်ကို အမှီရ၏။

ရဟန်းတို့ အဘယ်သို့လျှင် ခိုးသူကြီးသည် အားကြီးသူကို အမှီရသနည်း။

ရဟန်းတို့ ဤလောက၌ ခိုးသူကြီးသည် မင်းတို့ကိုသော် လည်းကောင်း၊ မင်း၏ အမတ်တို့ကိုသော် လည်းကောင်း အမှီရ၏၊ ထိုခိုးသူကြီးအား "အကယ်၍ တစ်ယောက်ယောက်က ငါ့ကို တစ်စုံတစ်ရာ ပြောငြားအံ့၊ ဤမင်းတို့ကသော် လည်းကောင်း၊ မင်း၏အမတ်ကြီးတို့ကသော် လည်းကောင်း အပြစ်ကို ကာကွယ်၍ ငါ့အကျိုးကို ပြောကြလိမ့်မည်" ဟု အကြံဖြစ်၏။

အကယ်၍ ငါ့ကို တစ်ယောက်ယောက်က တစ်စုံတစ်ရာ ပြောငြားအံ့၊ ထိုမင်းတို့ကသော် လည်းကောင်း၊ ထိုမင်း၏ အမတ်ကြီးတို့ကသော် လည်းကောင်း အပြစ်ကို ကာကွယ်၍ ထိုခိုးသူကြီး၏ အကျိုးကို ပြောကုန်၏။

ရဟန်းတို့ ဤသို့လျှင် ခိုးသူကြီးသည် အားကြီးသူကို အမှီရ၏။

ရဟန်းတို့ အဘယ်သို့လျှင် ခိုးသူကြီးသည် စည်းစိမ်ဥစ္စာကို စွန့်ကြဲလေ့ ရှိသနည်း။

ရဟန်းတို့ ဤလောက၌ ခိုးသူကြီးသည် ကြွယ်ဝ၏၊ များသော ဥစ္စာရှိ၏၊ များသော စည်းစိမ်ရှိ၏၊ ထိုခိုးသူကြီးအား "အကယ်၍ တစ်ယောက်ယောက်က ငါ့ကို တစ်စုံတစ်ရာ ပြောငြားအံ့၊ ထို စည်းစိမ်မှ ပစ္စည်းဥစ္စာဖြင့် အစေ့အစပ် ပြုလုပ်မည်" ဟု အကြံဖြစ်၏။

အကယ်၍ ထိုခိုးသူကြီးကို တစ်ယောက်ယောက်က တစ်စုံတစ်ရာ ပြောငြားအံ့၊ ထိုစည်းစိမ်မှ ပစ္စည်းဥစ္စာဖြင့် အစေ့အစပ် ပြုလုပ်၏။

ရဟန်းတို့ ဤသို့လျှင် ခိုးသူကြီးသည် ပစ္စည်းဥစ္စာကို စွန့်ကြဲလေ့ရှိ၏။

ရဟန်းတို့ အဘယ်သို့လျှင် ခိုးသူကြီးသည် တစ်ယောက်တည်း သွားလာသနည်း။

ရဟန်းတို့ ဤလောက၌ ခိုးသူကြီးသည် တစ်ယောက်တည်းသာလျှင် လုယူမှုတို့ကို ပြုတတ်၏။

ထိုသို့ ပြုခြင်းသည် အဘယ်ကြောင့်နည်း -

"ငါ၏ လျှို့ဝှက် တိုင်ပင်မှုတို့သည် အပြင်ပ၌ ပေါက်ကြားခြင်းသို့ မရောက်ပါစေကုန်လင့်" ဟု နှလုံးသွင်းသောကြောင့်တည်း။

ရဟန်းတို့ ဤသို့လျှင် ခိုးသူကြီးသည် တစ်ယောက်တည်း သွားလာတတ်၏။

ရဟန်းတို့ ဤ အင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော ခိုးသူကြီးသည် အိမ်ကိုသော်လည်း ဖောက်ထွင်း၏၊ ရွာကိုသော်လည်း တိုက်ခိုက် လုယူ၏၊ တစ်အိမ်တည်းကိုသော်လည်း တိုက်ခိုက်လုယူ၏၊ လမ်းခရီး၌ စောင့်၍ သော်လည်း တိုက်ခိုက်လုယူ၏။

ရဟန်းတို့ ဤအတူသာလျှင် အင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းယုတ်သည် တူးဖြို ဖျက်ဆီးအပ်သော မိမိကိုယ်ကို စောင့်ရှောက်၏၊ အပြစ်လည်း ရှိ၏၊ ပညာရှိတို့လည်း စွပ်စွဲ၏၊ များစွာသော မကောင်းမှုကိုလည်း ဖြစ်ပွါးစေ၏။

အဘယ်အင်္ဂါငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းယုတ်သည်-

မညီညွတ်သော အရပ်ကိုသော်လည်း အမှီရ၏။

တောအုပ်ကိုသော်လည်း အမှီရ၏။

အားကြီးသူကိုသော်လည်း အမှီရ၏။

စည်းစိမ် ဥစ္စာကိုသော်လည်း စွန့်ကြဲလေ့ရှိ၏။

တစ်ယောက်တည်းသော်လည်း သွားလာတတ်၏။

ရဟန်းတို့ ရဟန်းယုတ်သည် အဘယ်သို့လျှင် မညီညွတ်သော အရပ်ကို အမှီရသနည်း။

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းယုတ်သည် မညီညွတ်သော ကာယကံနှင့် ပြည့်စုံ၏၊ မညီညွတ်သော ဝစီကံနှင့် ပြည့်စုံ၏၊ မညီညွတ်သော မနောကံနှင့် ပြည့်စုံ၏။

ရဟန်းတို့ ဤသို့လျှင် ရဟန်းယုတ်သည် မညီညွတ်သော အရပ်ကို အမှီရ၏။

ရဟန်းတို့ အဘယ်သို့လျှင် ရဟန်းယုတ်သည် တောအုပ်ကို အမှီရသနည်း။

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းယုတ်သည် မှားယွင်းသော အယူ ရှိ၏၊ သသတစသည်ဖြင့် စွဲယူသော အန္တဂ္ဂါဟိကဒိဋ္ဌိနှင့် ပြည့်စုံ၏။

ရဟန်းတို့ ဤသို့လျှင် ရဟန်းယုတ်သည် တောအုပ်ကို အမှီရ၏။

ရဟန်းတို့ အဘယ်သို့လျှင် ရဟန်းယုတ်သည် အားကြီးသူကို အမှီရသနည်း။

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းယုတ်သည် မင်းတို့ကိုသော် လည်းကောင်း၊ မင်း၏ အမတ်ကြီးတို့ကိုသော် လည်းကောင်း အမှီရ၏။

ထိုရဟန်းအား -

"အကယ်၍ တစ်ယောက်ယောက်က ငါ့ကို တစ်စုံတစ်ရာ ပြောငြားအံ့၊ ဤမင်းတို့ကသော် လည်းကောင်း၊ မင်း၏အမတ်ကြီးတို့ကသော် လည်းကောင်း အပြစ်ကို ကာကွယ်၍ ငါ့အကျိုးကို ပြောကြလိမ့်မည်" ဟု အကြံဖြစ်၏။

အကယ်၍ ထိုရဟန်းကို တစ်ယောက်ယောက်က တစ်စုံတစ်ရာ ပြောငြားအံ့၊ ထိုမင်းတို့ကသော် လည်းကောင်း၊ မင်း၏အမတ်ကြီးတို့ကသော် လည်းကောင်း အပြစ်ကို ကာကွယ်၍ ထိုရဟန်း၏ အကျိုးကို ပြောကုန်၏။

ရဟန်းတို့ ဤသို့လျှင် ရဟန်းယုတ်သည် အားကြီးသူကို အမှီရ၏။

ရဟန်းတို့ အဘယ်သို့လျှင် ရဟန်းယုတ်သည် စည်းစိမ်ဥစ္စာကို စွန့်ကြဲလေ့ ရှိသနည်း။

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းယုတ်သည် သင်္ကန်း ဆွမ်း ကျောင်းအိပ်ရာ နေရာ သူနာ၏ အထောက်အပံ့ ဆေး အသုံးအဆောင်ကို ရ၏။

ထိုရဟန်းအား-

"အကယ်၍ ငါ့ကို တစ်ယောက်ယောက်က တစ်စုံတစ်ရာ ပြောငြားအံ့၊ ထိုစည်းစိမ်မှ လာဘ် လာဘဖြင့် အစေ့အစပ်ပြုမည်" ဟု အကြံဖြစ်၏။

အကယ်၍ ထိုရဟန်းယုတ်ကို တစ်ယောက်ယောက်က တစ်စုံတစ်ရာ ပြောငြားအံ့၊ ထိုစည်းစိမ်မှ လာဘ် လာဘဖြင့် အစေ့အစပ် ပြုလုပ်၏။

ရဟန်းတို့ ဤသို့လျှင် စည်းစိမ်ဥစ္စာကို စွန့်ကြဲလေ့ရှိ၏။

ရဟန်းတို့ အဘယ်သို့လျှင် ရဟန်းယုတ်သည် တစ်ယောက်တည်း သွားလာသနည်း။

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းယုတ်သည် တစ်ယောက်တည်းသာလျှင် အစွန်အဖျားကျသော ဇနပုဒ်တို့၌ နေ၏၊ ထိုရဟန်းယုတ်သည် ထိုဇနပုဒ်ရှိ အိမ်တို့သို့ ချဉ်းကပ်သည် ရှိသော် လာဘ်ကို ရ၏။

ရဟန်းတို့ ဤသို့လျှင် ရဟန်းယုတ်သည် တစ်ယောက်တည်း သွားလာ၏။

ရဟန်းတို့ ဤအင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းယုတ်သည် တူးဖြို ဖျက်ဆီးအပ်သော မိမိကိုယ်ကို စောင့်ရှောက်၏၊ အပြစ်လည်းရှိ၏၊ ပညာရှိတို့လည်း စွပ်စွဲ၏၊ များစွာသော မကောင်းမှုကိုလည်း ဖြစ်ပွါးစေ၏ ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

## === (၁၁) ၁ - ဗာသုဝိဟာရဝဂ် ===

### ၄ - သမဏ သုခုမာလသုတ်

၁၀၄။ ရဟန်းတို့ တရား ငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် ရဟန်းတို့တွင် နူးညံ့သိမ်မွေ့သော ရဟန်းဖြစ်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် (သုံးဆောင်တော်မူပါဟု) တောင်းပန်အပ်သည် ဖြစ်၍သာလျှင် သင်္ကန်းကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်သာတည်း၊ တောင်းပန်အပ်သည် ဖြစ်၍သာလျှင် ဆွမ်းကို သုံးဆောင်ရသည်ကား များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်က အနည်းငယ်သာတည်း။

တောင်းပန်အပ်သည် ဖြစ်၍ သာလျှင် ကျောင်းအိပ်ရာ နေရာကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်သာတည်း။

တောင်းပန်အပ်သည် ဖြစ်၍ သာလျှင် သူနာ၏ အထောက်အပံ့ ဆေး အသုံးအဆောင်တို့ကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်သာတည်း။

အတူနေ သီတင်းသုံးဖော်တို့သည် ထိုရဟန်းအား နှစ်မြို့ဖွယ် ကာယကံဖြင့် သာလျှင် ပြုမူကြသည်က များ၏၊ မနှစ်မြို့ဖွယ် ကာယကံဖြင့် ပြုမူကြသည်ကား အနည်းငယ်မျှသာတည်း၊ နှစ်မြို့ဖွယ် ဝစီကံဖြင့် သာလျှင် ပြုမူကြသည်က များ၏၊ မနှစ်မြို့ဖွယ် ဝစီကံဖြင့် ပြုမူကြသည်ကား အနည်းငယ်မျှသာတည်း၊ နှစ်မြို့ဖွယ် မနောကံဖြင့်သာလျှင် ပြုမူကြသည်က များ၏၊ မနှစ်မြို့ဖွယ် မနောကံဖြင့် ပြုမူကြသည်ကား အနည်းငယ်မျှသာတည်း၊ နှစ်မြို့ဖွယ် ပူဇော်ခြင်းကိုသာလျှင် ဆောင်ကြသည်က များ၏၊ မနှစ်မြို့ဖွယ် ပူဇော်ခြင်းကို ဆောင်ကြသည်ကား အနည်းငယ်မျှသာတည်း။

သည်းခြေကြောင့်သော် လည်းကောင်း၊ သလိပ်ကြောင့်သော် လည်းကောင်း၊ လေကြောင့်သော် လည်းကောင်း၊ သည်းခြေ သလိပ် လေတို့၏ ပေါင်းဆုံမိခြင်း 'သန္နိပါတ်' ကြောင့်သော် လည်းကောင်း၊ ဥတု ဖောက်ပြန်ခြင်းကြောင့်သော် လည်းကောင်း၊ မညီမညွတ် ဆောင်ရွက်မှုကြောင့်သော် လည်းကောင်း၊ သူတစ်ပါး လုံ့လ ပယောဂကြောင့်သော် လည်းကောင်း၊ ကံအကျိုးပေးခြင်းကြောင့်သော် လည်းကောင်း ဖြစ်ကုန်သော ဝေဒနာတို့သည် ထိုရဟန်းအား များစွာမဖြစ်ကုန်၊ အနာကင်း၏၊ မျက်မှောက်ဘဝ၌ ချမ်းသာစွာ နေကြောင်းဖြစ်သည့် လွန်မြတ်သော စိတ်၌ ဖြစ်သော (ရူပါဝစရ)ဈာန် လေးပါးတို့ကို အလိုရှိ တိုင်းရ၏၊ မငြိုမငြင်ရ၏၊ မပင်မပန်း ရ၏။ အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော (အရဟတ္တဖိုလ်)စိတ်နှင့် လွတ်မြောက်သော (အရဟတ္တဖိုလ်)ပညာကို ယခုဘဝ၌ပင်လျှင် ထူးသောဉာဏ်ဖြင့် ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍ နေရ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် ရဟန်းတို့တွင် နူးညံ့ သိမ်မွေ့သော ရဟန်းမည်၏။

ရဟန်းတို့ "ရဟန်းတို့တွင် နူးညံ့သိမ်မွေ့သော ရဟန်း" ဟူသော စကားကို ကောင်းစွာ ဆိုလိုသူသည် ငါ့ကို သာလျှင် ရည်ညွှန်း၍ ဆိုသည်ရှိသော် ကောင်းစွာ (အမှန်အကန်) ဆိုရာရောက်၏။

ရဟန်းတို့ မှန်၏၊ ငါသည် တောင်းပန်အပ်သည် ဖြစ်၍ သာလျှင် သင်္ကန်းကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်မျှသာတည်း။

တောင်းပန်အပ်သည် ဖြစ်၍ သာလျှင် ဆွမ်းကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်မျှသာတည်း။

တောင်းပန်အပ်သည်ဖြစ်၍ သာလျှင် ကျောင်း အိပ်ရာနေရာကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်မျှသာတည်း။

တောင်းပန်အပ်သည် ဖြစ်၍ သာလျှင် သူနာ၏ အထောက်အပံ့ဆေး အသုံးအဆောင်ကို သုံးဆောင်ရသည်က များ၏၊ မတောင်းပန်အပ်ဘဲ သုံးဆောင်ရသည်ကား အနည်းငယ်မျှသာတည်း။

အတူနေ သီတင်းသုံးဖော်တို့သည် ငါ့ကို နှစ်မြို့ဖွယ် ကာယကံဖြင့် ပြုမူကြသည်က များ၏၊ မနှစ်မြို့ဖွယ် ကာယကံဖြင့် ပြုမူကြသည်ကား အနည်းငယ်မျှသာတည်း။

နှစ်မြို့ဖွယ် ဝစီကံဖြင့် ပြုမူကြသည်က များ၏၊ မနှစ်မြို့ဖွယ် ဝစီကံဖြင့် ပြုမူကြသည်ကား အနည်းငယ်မျှသာတည်း။

နှစ်မြို့ဖွယ် မနောကံဖြင့် ပြုမူကြသည်က များ၏၊ မနှစ်မြို့ဖွယ် မနောကံဖြင့် ပြုမူကြသည်ကား အနည်းငယ်မျှသာတည်း။

နှစ်မြို့ဖွယ် ပူဇော်ခြင်းကိုသာလျှင် ဆောင်ကြသည်က များ၏၊ မနှစ်မြို့ဖွယ် ပူဇော်ခြင်းကို ဆောင်ကြသည်ကား အနည်းငယ်မျှသာတည်း။

သည်းခြေကြောင့်သော် လည်းကောင်း၊ သလိပ်ကြောင့်သော် လည်းကောင်း၊ လေကြောင့်သော် လည်းကောင်း၊ သည်းခြေ သလိပ် လေတို့၏ ပေါင်းဆုံမိခြင်း 'သန္နိပါတ်' ကြောင့်သော် လည်းကောင်း၊ ဥတု ဖောက်ပြန်ခြင်းကြောင့်သော် လည်းကောင်း၊ မညီမညွတ် ဆောင်ရွက်မှုကြောင့်သော် လည်းကောင်း သူတစ်ပါး လုံ့လ ပယောဂကြောင့်သော် လည်းကောင်း၊ ကံအကျိုးပေးခြင်းကြောင့်သော် လည်းကောင်း ဖြစ်ကုန်သော ဝေဒနာတို့သည် ငါ့အား များစွာ မဖြစ်ကုန်၊ အနာကင်း၏၊ မျက်မှောက်ဘဝ၌ ချမ်းသာစွာ နေကြောင်းဖြစ်သည့် လွန်မြတ်သော စိတ်၌ ဖြစ်သော (ရူပါဝစရ) ဈာန်လေးပါးတို့ကို အလိုရှိတိုင်းရ၏၊ မငြိုငြင်ရ၏၊ မပင်မပန်းရ၏။ အာသဝေါ တရားတို့၏ ကုန်ခြင်းကြောင့်။ပ။ မျက်မှောက်ပြုလျက် ရောက်၍ နေရ၏။

ရဟန်းတို့ "ရဟန်းတို့တွင် နူးညံ့သိမ်မွေ့သော ရဟန်း" ဟူသော စကားကို ကောင်းစွာ ဆိုလိုသူသည် ငါ့ကိုသာလျှင် ရည်ညွှန်း၍ ဆိုသော် ကောင်းစွာ (အမှန်အကန်)ဆိုရာ ရောက်၏ ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

### ၅ - ဖာသုဝိဟာရသုတ်

၁၀၅။ ရဟန်းတို့ ချမ်းသာစွာ နေရခြင်းတို့သည် ဤငါးမျိုးတို့တည်း၊

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ -

ရဟန်း၏ မေတ္တာ ကာယကံသည် မျက်မှောက်၌သော် လည်းကောင်း၊ မျက်ကွယ်၌သော် လည်းကောင်း သီတင်းသုံးဖော်တို့၌ ရှေးရှုတည်၏။

ရဟန်း၏ မေတ္တာ ဝစီကံသည် မျက်မှောက်၌သော် လည်းကောင်း၊ မျက်ကွယ်၌သော် လည်းကောင်း သီတင်းသုံးဖော်တို့၌ ရှေးရှုတည်၏။

ရဟန်း၏ မေတ္တာ မနောကံသည် မျက်မှောက်၌သော် လည်းကောင်း၊ မျက်ကွယ်၌သော် လည်းကောင်း သီတင်းသုံးဖော်တို့၌ ရှေးရှုတည်၏။

မကျိုး မပေါက် မပြောက် မကျားကုန်သော၊ တဏှာကျွန် အဖြစ်မှ လွတ်မြောက်ကုန်သော၊ ပညာရှိတို့ ချီးမွမ်းအပ်ကုန်သော၊ မှားသောအားဖြင့် မသုံးသပ်အပ်ကုန်သော၊ တည်ကြည်ခြင်း 'သမာဓိ' ကို ဖြစ်စေတတ်သော သဘော ရှိကုန်သော သီလတို့ဖြင့် မျက်မှောက်၌သော် လည်းကောင်း၊ မျက်ကွယ်၌သော် လည်းကောင်း သီတင်းသုံးဖော်တို့နှင့် သီလတူသည်၏ အဖြစ်သို့ ရောက်လျက်နေ၏။

ဖြူစင်သော၊ ဝဋ်ဆင်းရဲမှ ထွက်မြောက်ကြောင်း ဖြစ်သော၊ ထိုအယူကို ပြုကျင့်သူအား ကောင်းစွာ ဝဋ်ဆင်းရဲ ကုန်ရန် ထုတ်ဆောင်တတ်သော သဘောရှိသည့် မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' ဖြင့် မျက်မှောက်၌သော် လည်းကောင်း၊ မျက်ကွယ်၌သော် လည်းကောင်း သီတင်းသုံးဖော်တို့နှင့်အယူ 'ဒိဋ္ဌိ' တူမျှသည့် အဖြစ်သို့ ရောက်လျက်နေ၏။

ရဟန်းတို့ ချမ်းသာစွာ နေရခြင်းတို့သည် ဤငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

### ၆ - အာနန္ဒသုတ်

၁၀၆။ အခါတစ်ပါး၌ မြတ်စွာဘုရားသည် ကောသမ္ဗီပြည် ဃောသိတာရုံကျောင်း၌ (သီတင်းသုံး) နေတော်မူ၏။ ထိုအခါ အရှင်အာနန္ဒာသည် မြတ်စွာဘုရားထံသို့ ချဉ်းကပ်၍ ရှိခိုးပြီးလျှင် တစ်ခုသော နေရာ၌ ထိုင်နေလျက် မြတ်စွာဘုရားအား -

အရှင်ဘုရား အဘယ်မျှသော အကြောင်းဖြင့် ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရပါသနည်း ဟု လျှောက်၏။

အာနန္ဒာ ရဟန်းသည် မိမိက စောင့်ထိန်းမှု 'သီလ'နှင့် ပြည့်စုံ၍ သူတစ်ပါးကိုလည်း လွန်မြတ်သော သီလကြောင့် မကဲ့ရဲ့တတ်။

အာနန္ဒာ ဤမျှသော အကြောင်းဖြင့်လည်း ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရ၏ ဟု (မိန့်တော်မူ၏)။

အသျှင်ဘုရား ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရသော အခြားအကြောင်း လည်း ရှိပါသေးသလော ဟု (လျှောက်ပြန်၏)။

အာနန္ဒာ ရှိသေး၏၊ အာနန္ဒာ ရဟန်းသည် မိမိက သီလနှင့် ပြည့်စုံ၍ သူတစ်ပါးကိုလည်း လွန်မြတ် သော သီလကြောင့် မကဲ့ရဲ့တတ်၊ မိမိကိုယ်ကိုသာ ရှုလေ့ရှိ၍ သူတစ်ပါးကိုမူကား ရှုလေ့မရှိ၊ အာနန္ဒာ ဤမျှသော အကြောင်းဖြင့်လည်း ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရ၏ ဟု (မိန့်တော်မူ၏)။

အသျှင်ဘုရား ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရသော အခြားအကြောင်း လည်း ရှိပါသေးသလော ဟု (လျှောက်ပြန်၏)။

အာနန္ဒာ ရှိသေး၏၊ အာနန္ဒာ ရဟန်းသည် မိမိက သီလနှင့် ပြည့်စုံ၍ သူတစ်ပါးကိုလည်း လွန်မြတ် သော သီလကြောင့် မကဲ့ရဲ့တတ်၊ မိမိကိုယ်ကိုသာ ရှုလေ့ရှိ၍ သူတစ်ပါးကိုမူကား ရှုလေ့မရှိ၊ မထင်ရှားသူ ဖြစ်၍ ထိုမထင်ရှားခြင်းကြောင့်လည်း မပူပန် မတောင့်တ၊ အာနန္ဒာ ဤမျှသော အကြောင်းဖြင့်လည်း ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရ၏ ဟု (မိန့်တော်မူ၏)။

အသျှင်ဘုရား ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရသော အခြားအကြောင်း လည်း ရှိပါသေးသလော ဟု (လျှောက်ပြန်၏)။

အာနန္ဒာ ရှိသေး၏၊ အာနန္ဒာ ရဟန်းသည် မိမိက သီလနှင့် ပြည့်စုံ၍ သူတစ်ပါးကိုလည်း လွန်မြတ် သော သီလကြောင့် မကဲ့ရဲ့တတ်၊ မိမိကိုယ်ကိုသာ ရှုလေ့ရှိ၍ သူတစ်ပါးကိုမူကား ရှုလေ့မရှိ၊ မထင်ရှားသူ ဖြစ်၍ ထိုမထင်ရှားခြင်းကြောင့်လည်း မပူပန် မတောင့်တ၊ မျက်မှောက်ဘဝ၌ ချမ်းသာစွာ နေကြောင်း ဖြစ်သည့် လွန်မြတ်သော စိတ်၌ဖြစ်သော (ရူပါဝစရ) ဈာန်လေးပါးတို့ကို အလိုရှိတိုင်း ရ၏၊ မငြိုမငြင် ရ၏၊ မပင်မပန်း ရ၏။ အာနန္ဒာ ဤမျှသော အကြောင်းဖြင့်လည်း ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရ၏ ဟု (မိန့်တော်မူ၏)။

အသျှင်ဘုရား ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရသော အခြားအကြောင်း လည်း ရှိပါသေးသလော ဟု (လျှောက်ပြန်၏)။

အာနန္ဒာ ရှိသေး၏၊ အာနန္ဒာ ရဟန်းသည် မိမိက သီလနှင့် ပြည့်စုံ၍ သူတစ်ပါးကိုလည်း လွန်မြတ်သော သီလကြောင့် မကဲ့ရဲ့တတ်၊ မိမိကိုယ်ကိုသာ ရှုလေ့ရှိ၍ သူတစ်ပါးကိုမူကား ရှုလေ့မရှိ၊ မထင်ရှားသူဖြစ်၍ ထိုမထင်ရှားခြင်းကြောင့်လည်း မပူပန် မတောင့်တ၊ မျက်မှောက်ဘဝ၌ ချမ်းသာစွာ နေကြောင်းဖြစ်သည့် လွန်မြတ်သော စိတ်၌ ဖြစ်သော (ရူပါဝစရ) ဈာန်လေးပါးတို့ကို အလိုရှိတိုင်း ရ၏၊ မငြိုမငြင်ရ၏၊ မပင်မပန်းရ၏။ အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော (အရဟတ္တဖိုလ်)စိတ်နှင့် လွတ်မြောက်သော (အရဟတ္တဖိုလ်) ပညာကို ယခုဘဝ၌ပင် ထူးသော ဉာဏ်ဖြင့်ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍ နေ၏။

အာနန္ဒာ ဤမျှသော အကြောင်းဖြင့်လည်း ရဟန်းသည် သံဃာ၌ နေသည်ရှိသော် ချမ်းသာစွာ နေရ၏။

အာနန္ဒာ ဤချမ်းသာစွာ နေရခြင်းထက် သာ၍ လွန်ကဲ, သာ၍ ထူးမြတ်သော အခြားသော ချမ်းသာစွာ နေရခြင်းမျိုးသည် မရှိတော့ပြီ ဟူ၍ ငါဆို၏ ဟု (မိန့်တော်မူ၏)။

**ဆဋ္ဌသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

## ၇ - သီလသုတ်

၁၀၇။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် (အရပ်ဝေးမှ) ဆောင်လာ၍သော်လည်း ပေးလှူ ပူဇော်အပ်သော အလှူကို ခံထိုက်၏၊ ဧည့်သည်တို့ အလို့ငှါ စီမံထားသော ဝတ္ထုကိုခံထိုက်၏၊ တမလွန်အတွက် ရည်မျှော်သော အလှူကို ခံထိုက်၏၊ လက်အုပ်ချီခြင်းငှါ ခံထိုက်၏၊ သတ္တဝါအပေါင်း၏ ကောင်းမှုပြုရန် အမြတ်ဆုံး လယ်မြေဖြစ်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် စောင့်ထိန်းမှု 'သီလ' နှင့် ပြည့်စုံ၏၊

တည်ကြည်မှု 'သမာဓိ' နှင့် ပြည့်စုံ၏၊

သိမှု 'ပညာ' နှင့် ပြည့်စုံ၏။

(ကိလေသာမှ) လွတ်မြောက်မှု (အရဟတ္တဖိုလ်) နှင့် ပြည့်စုံ၏။

(ကိလေသာမှ) လွတ်မြောက်မှု (အရဟတ္တဖိုလ်)ကို သိသော ဉာဏ်အမြင် 'ပစ္စဝေက္ခဏာဉာဏ်' နှင့် ပြည့်စုံ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် (အရပ်ဝေးမှ) ဆောင်လာ၍ သော်လည်း ပေးလှူ ပူဇော်အပ်သော အလှူကို ခံထိုက်၏၊ ဧည့်သည်တို့ အလို့ငှါ စီမံထားသော ဝတ္ထုကို ခံထိုက်၏၊ တမလွန် အတွက် ရည်မျှော်သော အလှူကို ခံထိုက်၏၊ လက်အုပ်ချီခြင်းငှါ ခံထိုက်၏၊ သတ္တဝါ အပေါင်း၏ ကောင်းမှုပြုရန် အမြတ်ဆုံး လယ်မြေဖြစ်၏ ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

### ၈ - အသေခသုတ်

၁၀၈။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် (အရပ်ဝေးမှ) ဆောင်လာ၍သော်လည်း ပေးလှူ ပူဇော်အပ်သော အလှူကို ခံထိုက်၏၊ ဧည့်သည်တို့ အလို့ငှါ စီမံထားသော ဝတ္ထုကို ခံထိုက်၏၊ တမလွန်အတွက် ရည်မျှော်သော အလှူကို ခံထိုက်၏၊ လက်အုပ်ချီခြင်းငှါ ခံထိုက်၏၊ သတ္တဝါ အပေါင်း၏ ကောင်းမှုပြုရန် အမြတ်ဆုံး လယ်မြေဖြစ်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -

ကျင့်ပြီး 'ရဟန္တာ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော သီလအစုနှင့် ပြည့်စုံ၏။

ကျင့်ပြီး 'ရဟန္တာ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော သမာဓိအစုနှင့် ပြည့်စုံ၏။

ကျင့်ပြီး 'ရဟန္တာ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော ပညာအစုနှင့် ပြည့်စုံ၏။

ကျင့်ပြီး 'ရဟန္တာ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော (ကိလေသာမှ) လွတ်မြောက်မှု (အရဟတ္တဖိုလ်) အစုနှင့် ပြည့်စုံ၏။

ကျင့်ပြီး 'ရဟန္တာ' ပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော (ကိလေသာမှ) လွတ်မြောက်မှု (အရဟတ္တဖိုလ်)ကို သိသော ဉာဏ်အမြင် 'ပစ္စဝေက္ခဏာဉာဏ်' အစုနှင့် ပြည့်စုံ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် (အရပ်ဝေးမှ) ဆောင်လာ၍ သော်လည်း ပေးလှူ ပူဇော်အပ်သော အလှူကို ခံထိုက်၏။ပ။ သတ္တဝါ အပေါင်း၏ ကောင်းမှုပြုရန် အမြတ်ဆုံး လယ်မြေဖြစ်၏ ဟု (မိန့်တော်မူ၏)။

**အဋ္ဌမသုတ်။**

------

## ၉ - စာတုဒ္ဒိသသုတ်

၁၀၉။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် အရပ် လေးမျက်နှာတို့၌ အပိတ်အပင် မရှိသည် ဖြစ်၍ လှည့်လည်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -

သီလရှိ၏၊ ပါတိမောက္ခသံဝရသီလကို စောင့်ထိန်းလျက်နေ၏၊ အကျင့် 'အာစာရ' ကျက်စားရာ 'ဂေါစရ'နှင့် ပြည့်စုံ၏။ အနည်းငယ်မျှသော အပြစ်တို့၌သော်လည်း ဘေး ဟု ရှုလေ့ရှိသည် ဖြစ်၍ သိက္ခာပုဒ်တို့၌ ကောင်းစွာ ဆောက်တည်၍ ကျင့်၏။

အကြားအမြင် များ၏၊ အကြားအမြင်ကို ဆောင်၏၊ အကြားအမြင်ကို ဆည်းပူး၏၊ အနက်, သဒ္ဒါနှင့် ပြည့်စုံ၍ အလုံးစုံ ပြည့်စုံ စင်ကြယ်သော မြတ်သော အကျင့်ကို ဖော်ပြတတ် ကုန်သော အစ၏ ကောင်းခြင်း အလယ်၏ ကောင်းခြင်း အဆုံး၏ ကောင်းခြင်း ရှိကုန်သော တရားတို့ကို ထိုရဟန်းသည် များစွာ ကြားနာဖူး၏၊ ဆောင်ထား၏၊ နှုတ်ဖြင့် လေ့ကျက်ထား၏၊ စိတ်ဖြင့် ဆင်ခြင်ထား၏၊ ဉာဏ်ဖြင့် ထိုးထွင်း၍ သိ၏။

ရတတ်သမျှသော သင်္ကန်း ဆွမ်း ကျောင်းအိပ်ရာ နေရာ သူနာ၏ အထောက်အပံ့ ဆေး အသုံး အဆောင်ဖြင့် ရောင့်ရဲ၏။

မျက်မှောက်၌ ချမ်းသာစွာ နေကြောင်းဖြစ်သည့် လွန်မြတ်သော စိတ်ကို ဖြစ်စေတတ်သော ရူပါဝစရဈာန် လေးပါးတို့ကို အလိုရှိတိုင်း ရ၏၊ မငြိုမငြင် ရ၏၊ မပင်မပန်း ရ၏။

အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါ ကင်းသော လွတ်မြောက်သော (အရဟတ္တဖိုလ်) စိတ်နှင့် လွတ်မြောက်သော (အရဟတ္တဖိုလ်) ပညာကို ယခုဘဝ၌ပင်လျှင် ထူးသော ဉာဏ်ဖြင့် ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍ နေ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် အရပ်လေးမျက်နှာတို့၌ အပိတ်အပင် မရှိသည် ဖြစ်၍ လှည့်လည်ရ၏ ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

## === (၁၁) ၁ - ဖာသုဝိဟာရဝဂ် ===

### ၁၀ - အရညသုတ်

၁၁၀။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် အစွန်အဖျား ကျသော တောကျောင်းတို့ကို မှီဝဲခြင်းငှါ သင့်လျော်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ-

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -

သီလရှိ၏။ပ။ သိက္ခာပုဒ်တို့၌ ဆောက်တည်၍ ကျင့်၏။

အကြားအမြင်များ၏။ပ။ ဉာဏ်ဖြင့် ထိုးထွင်း၍ သိ၏။

ထက်သန်သော လုံ့လရှိသည် ဖြစ်၍ နေ၏၊ အားအစွမ်းရှိ၏၊ မြဲမြံစွာ အားထုတ်မှု ရှိ၏၊ ကုသိုလ်တရားတို့၌ တာဝန်ကို ပစ်ချထားခြင်း မရှိ။

မျက်မှောက်၌ ချမ်းသာစွာ နေကြောင်း ဖြစ်သည့် လွန်မြတ်သော စိတ်ကို ဖြစ်စေတတ်သော ရူပါဝစရဈာန် လေးပါးတို့ကို အလိုရှိတိုင်းရ၏၊ မငြိုမငြင် ရ၏၊ မပင်မပန်း ရ၏။

အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော (အရဟတ္တဖိုလ်) စိတ်နှင့် လွတ်မြောက်သော (အရဟတ္တဖိုလ်) ပညာကို ယခုဘဝ၌ပင်လျှင် ထူးသော ဉာဏ်ဖြင့် ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍ နေ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် အစွန်အဖျား ကျသော တောကျောင်းတို့ကို မှီဝဲခြင်းငှါ သင့်လျော်၏ ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**ရှေးဦးစွာသော ဖာသုဝိဟာရဝဂ် ပြီး၏။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၁ - ကုလူပကသုတ်

၁၁၁။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသည့် အိမ်သို့ ကပ်သော ရဟန်းသည် အိမ်သူ အိမ်သားတို့၏ မချစ်အပ်သူလည်း ဖြစ်၏၊ မမြတ်နိုးအပ်သူလည်း ဖြစ်၏၊ မလေးစားအပ်သူလည်း ဖြစ်၏၊ (နှလုံးကို) မပွါးစေတတ်သူလည်း ဖြစ်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

အဆွေခင်ပွန်း မဟုတ်ပါဘဲလျက် အကျွမ်းတဝင်လည်း ပြုလုပ်တတ်၏၊ မစိုးပိုင်ဘဲလျက်လည်း (စိုးပိုင်သကဲ့သို့) စီရင်တတ်၏၊ စွန့်လွှတ် (ကွဲပြား) ပြီးသူတို့ကိုလည်း (စေ့စပ်ရန်) မှီဝဲလေ့ရှိ၏၊ နားရင်း၌ ကပ်၍လည်း တိုးတိုး ပြောလေ့ရှိ၏၊ အလွန်လည်း တောင်းတတ်၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသည့် အိမ်သို့ကပ်သော ရဟန်းသည် အိမ်သူ အိမ်သားတို့၏ မချစ်အပ်သူလည်း ဖြစ်၏၊ မမြတ်နိုးအပ်သူလည်း ဖြစ်၏၊ မလေးစားအပ်သူလည်း ဖြစ်၏၊ (နှလုံးကို) မပွါးစေတတ်သူလည်း ဖြစ်၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသည့် အိမ်သို့ ကပ်သော ရဟန်းသည် အိမ်သူ အိမ်သားတို့၏ ချစ်အပ်သူလည်း ဖြစ်၏၊ မြတ်နိုးအပ်သူလည်း ဖြစ်၏၊ လေးစားအပ်သူလည်း ဖြစ်၏၊ (နှလုံးကို) ပွါးစေတတ်သူလည်း ဖြစ်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

အဆွေခင်ပွန်း မဟုတ်ပါဘဲလျက်လည်း အကျွမ်းတဝင် ပြုလုပ်လေ့ မရှိ၊ မစိုးပိုင်ဘဲလျက်လည်း (စိုးပိုင်သကဲ့သို့) စီရင်လေ့ မရှိ၊ စွန့်လွှတ် (ကွဲပြား) ပြီးသူတို့ကိုလည်း (စေ့စပ်ရန်) မှီဝဲလေ့ မရှိ၊ နားရင်း၌ ကပ်၍လည်း တိုးတိုး ပြောလေ့မရှိ၊ အလွန်လည်း မတောင်းတတ်။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသည့် အိမ်သို့ ကပ်သော ရဟန်းသည် အိမ်သူ အိမ်သားတို့၏ ချစ်အပ်သူလည်း ဖြစ်၏၊ မြတ်နိုးအပ်သူလည်း ဖြစ်၏၊ လေးစားအပ်သူလည်း ဖြစ်၏၊ (နှလုံးကို) ပွါးစေတတ်သူလည်း ဖြစ်၏ ဟု (မိန့်တော်မူ၏)။

**ပဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၂ - ပစ္ဆာသမဏသုတ်

၁၁၂။ ရဟန်းတို့ တရား ငါးမျိုးတို့နှင့် ပြည့်စုံသော နောက်လိုက် ရဟန်းကို မခေါ်ဆောင်အပ်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

အလွန် ဝေးစွာမူလည်း လိုက်တတ်၏၊ အလွန် နီးစွာမူလည်း လိုက်တတ်၏၊ (ဆရာ၏) ဆွမ်းပြည့် သပိတ်ကို လဲလှယ်၍လည်း မယူတတ်၊ အာပတ်၏ အနီး၌ ဆရာစကား ပြောဆိုသော် မတားမြစ်တတ်၊ ဆရာစကား ပြောဆိုသော် ကြားဝင် ပြောတတ်၏၊ ပညာမဲ့၏ မိုက်မဲ၏ ဆွံ့အ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော နောက်လိုက် ရဟန်းကို မခေါ်ဆောင်အပ်။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော နောက်လိုက် ရဟန်းကို ခေါ်ဆောင်အပ်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

မဝေးလွန်း မနီးလွန်း လိုက်တတ်၏၊ (ဆရာ၏) ဆွမ်းပြည့် သပိတ်ကို လဲလှယ်၍လည်း ယူတတ်၏၊ အာပတ်၏ အနီး၌ ဆရာစကား ပြောဆိုသော် တားမြစ်တတ်၏၊ ဆရာစကား ပြောဆိုသော် ကြားဝင်၍ မပြောတတ်၊ ပညာရှိ၏ မမိုက်မဲ မဆွံ့အ။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော နောက်လိုက် ရဟန်းကို ခေါ်ဆောင်အပ်၏ ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၃ - သမ္မာသမာဓိသုတ်

၁၁၃။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သို့ ရောက်၍ နေခြင်းငှါ မထိုက်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် အဆင်း 'ရူပါရုံ' တို့ကို သည်းမခံနိုင်၊ အသံ 'သဒ္ဒါရုံ' တို့ကို သည်းမခံနိုင်၊ အနံ့ 'ဂန္ဓာရုံ' တို့ကို သည်းမခံနိုင်၊ အရသာ 'ရသာရုံ' တို့ကို သည်းမခံနိုင်၊ အတွေ့ 'ဖောဋ္ဌဗ္ဗာရုံ' တို့ကို သည်းမခံနိုင်။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သို့ ရောက်၍ နေခြင်းငှါ မထိုက်။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သို့ ရောက်၍ နေခြင်းငှါ ထိုက်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် အဆင်း 'ရူပါရုံ' တို့ကို သည်းခံနိုင်၏၊ အသံ 'သဒ္ဒါရုံ' တို့ကို သည်းခံနိုင်၏၊ အနံ့ 'ဂန္ဓာရုံ' တို့ကို သည်းခံနိုင်၏၊ အရသာ 'ရသာရုံ' တို့ကို သည်းခံနိုင်၏၊ အတွေ့ 'ဖောဋ္ဌဗ္ဗာရုံ' တို့ကို သည်းခံနိုင်၏။

ရဟန်းတို့ ဤတရား ငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် မှန်ကန်သော တည်ကြည်မှု 'သမ္မာသမာဓိ' သို့ ရောက်၍ နေခြင်းငှါ ထိုက်၏ ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၄ - အန္ဓကဝိန္ဒသုတ်

၁၁၄။ အခါတစ်ပါး၌ မြတ်စွာဘုရားသည် မဂဓတိုင်း အန္ဓကဝိန္ဒအရပ်၌ (သီတင်းသုံး) နေတော်မူ၏၊ ထိုအခါ မြတ်စွာဘုရားထံသို့ ချဉ်းကပ်၍ ရှိခိုးပြီးလျှင် တစ်ခုသော နေရာ၌ ထိုင်နေသော အသျှင်အာနန္ဒာအား မြတ်စွာဘုရားသည် -

အာနန္ဒာ ပြသစ်စ ဖြစ်ကုန်သော ရဟန်းပြု၍ မကြာသေးကုန်သော ဤသာသနာတော်သို့ ယခုမှ ရောက်လာကုန်သော ရဟန်းတို့ကို သင်တို့သည် တရား ငါးမျိုးတို့၌ ဆောက်တည် စေအပ်ကုန်၏၊ သွင်းထားအပ်ကုန်၏၊ တည်စေအပ်ကုန်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ငါ့သျှင်တို့ သင်တို့ လာကြကုန်လော့၊ သီလရှိသူတို့ ဖြစ်ကြကုန်လော့၊ ပါတိမောက္ခသံဝရသီလကို ထိန်းသိမ်းကုန်လျက် အကျင့် 'အာစာရ' ကျက်စားရာ 'ဂေါစရ'နှင့် ပြည့်စုံကုန်သည် ဖြစ်၍ နေကြကုန်လော့၊ အနည်းငယ် မျှလောက်သော အပြစ်တို့၌ သော်လည်း ဘေးဟု ရှုလေ့ ရှိကုန်သည် ဖြစ်၍ သိက္ခာပုဒ်တို့၌ ဆောက်တည်လျက် ကျင့်ကြကုန်လော့ဟု ပါတိမောက္ခသံဝရသီလ၌ ဆောက်တည် စေအပ်ကုန်၏၊ သွင်းထား အပ်ကုန်၏၊ တည်စေအပ်ကုန်၏။

ငါ့သျှင်တို့ သင်တို့ လာကြကုန်လော့၊ ဣန္ဒြေတို့၌ ပိတ်ထားသော တံခါး ရှိကုန်သည် စောင့်ရှောက်အပ်သော သတိ ရှိကုန်သည် ပညာနှင့် ယှဉ်သော သတိ ရှိကုန်သည် ကောင်းစွာ စောင့်ရှောက်အပ်သော စိတ် ရှိကုန်သည် သတိဖြင့် စောင့်ရှောက်ထားသော စိတ်နှင့် ပြည့်စုံကုန်သည် ဖြစ်၍ နေကုန်လော့ ဟု ဣန္ဒြိယသံဝရသီလ၌ ဆောက်တည်စေအပ် ကုန်၏၊ သွင်းထားအပ်ကုန်၏၊ တည်စေအပ်ကုန်၏။

ငါ့သျှင်တို့ သင်တို့ လာကြကုန်လော့၊ စကားပြော နည်းပါးကုန်လော့၊ စကားပြောရာ၌ အပိုင်းအခြားကို ပြုကြကုန်လော့ ဟု စကားပြောမှု အပိုင်းအခြား၌ ဆောက်တည်စေအပ်ကုန်၏၊ သွင်းထားအပ်ကုန်၏၊ တည်စေအပ်ကုန်၏။

ငါ့သျှင်တို့ သင်တို့ လာကြကုန်လော့၊ တော၌ နေသူတို့ ဖြစ်ကြကုန်လော့၊ အစွန်အဖျားကျသော တောကျောင်းတို့ကို မှီဝဲကုန်လော့ ဟု ကိုယ်၏ ဆိတ်ငြိမ်ခြင်း 'ကာယဝိဝေက'၌ ဆောက်တည် စေအပ်ကုန်၏၊ သွင်းထားအပ်ကုန်၏၊ တည်စေအပ်ကုန်၏။

ငါ့သျှင်တို့ သင်တို့ လာကြကုန်လော့၊ မှန်ကန်သော အယူ 'သမ္မာဒိဋ္ဌိ' ရှိကုန်လော့၊ ကောင်းသော ဉာဏ်အမြင်နှင့် ပြည့်စုံကြကုန်လော့ ဟု မှန်ကန်သော အယူ၌ ဆောက်တည်စေအပ်ကုန်၏၊ သွင်းထားအပ်ကုန်၏၊ တည်စေအပ်ကုန်၏။

အာနန္ဒာ ပြသစ်စ ဖြစ်ကုန်သော ရဟန်းပြု၍ မကြာသေးကုန်သော ဤသာသနာတော်သို့ ယခုမှ ရောက်လာကုန်သော ရဟန်းတို့ကို သင်တို့သည် ဤတရားငါးမျိုးတို့၌ ဆောက်တည်စေအပ် ကုန်၏၊ သွင်းထားအပ်ကုန်၏၊ တည်စေအပ်ကုန်၏ ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၅ - မစ္ဆရိနီသုတ်

၁၁၅။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ ငရဲ၌ ဖြစ်ရ၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

နေရာ ကျောင်းကန်၌ ဝန်တိုခြင်း ရှိ၏၊ ဒါယကာတို့၌ ဝန်တိုခြင်း ရှိ၏၊ လာဘ်သပ်ပကာ၌ ဝန်တိုခြင်းရှိ၏၊ ကိုယ်ရေအဆင်း ဂုဏ်သတင်းတို့၌ ဝန်တိုခြင်းရှိ၏၊ ပရိယတ်တရား၌ ဝန်တိုခြင်းရှိ၏။

ရဟန်းတို့ ဤတရား ငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ ငရဲ၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

နေရာကျောင်းကန်၌ ဝန်တိုခြင်း မရှိ၊ ဒါယကာတို့၌ ဝန်တိုခြင်း မရှိ၊ လာဘ်သပ်ပကာ၌ ဝန်တိုခြင်း မရှိ၊ ကိုယ်ရေအဆင်း ဂုဏ်သတင်းတို့၌ ဝန်တိုခြင်း မရှိ၊ ပရိယတ်တရား၌ ဝန်တိုခြင်း မရှိ။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၆ - ဝဏ္ဏနာသုတ်

၁၁၆။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

အဘယ်ငါးမျိုး တို့နည်း ဟူမူ-

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ မချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်းပြောဆို၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ ချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ ပြောဆို၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ မကြည်ညိုသင့်သော အရာ၌ ကြည်ညိုခြင်းကို ပြု၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ ကြည်ညိုသင့်သော အရာ၌ မကြည်ညိုခြင်းကို ပြု၏။

သဒ္ဓါတရားဖြင့် လှူသော ပစ္စည်းကို ဖျက်ဆီး၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ မချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ပြောဆို၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ ချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်းပြောဆို၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ မကြည်ညိုသင့်သော အရာ၌ မကြည်ညိုခြင်းကို ပြု၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ ကြည်ညိုသင့်သော အရာ၌ ကြည်ညိုခြင်းကို ပြု၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို မဖျက်ဆီး။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**ဆဋ္ဌသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၇ - ဣဿုကိနီသုတ်

၁၁၇။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ မချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်းပြောဆို၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ ချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ပြောဆို၏။

ငြူစူခြင်းလည်း ရှိ၏။

ဝန်တိုခြင်းလည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို ဖျက်ဆီး၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲပြည်၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ မချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ပြောဆို၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ ချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်းပြောဆို၏။

ငြူစူခြင်းလည်း မရှိ။

ဝန်တိုခြင်းလည်း မရှိ။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို မဖျက်ဆီး။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၈ - မိစ္ဆာဒိဋ္ဌိကသုတ်

၁၁၈။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ မချီးမွမ်းထိုက်သူ၏ ဂုဏ်ကျေးဇူးကို ချီးမွမ်းပြောဆို၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ ချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ပြောဆို၏။

မှားယွင်းသော အယူလည်း ရှိ၏။

မှားယွင်းသော အကြံအစည်လည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို ဖျက်ဆီး၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ မချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ပြောဆို၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ ချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်းပြောဆို၏။

မှန်ကန်သော အယူလည်း ရှိ၏။

မှန်ကန်သော အကြံအစည်လည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းတို့ကို မဖျက်ဆီး။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**အဋ္ဌမသုတ်။**

------

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

### ၉ - မိစ္ဆာဝါစာသုတ်

၁၁၉။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ ငရဲ၌ ဖြစ်ရ၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ မချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်းပြောဆို၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ ချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ပြောဆို၏။

မှားယွင်းသော ပြောဆိုခြင်းလည်း ရှိ၏။

မှားယွင်းသော ပြုခြင်းလည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို ဖျက်ဆီး၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ ငရဲ၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ မချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ ပြောဆို၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ ချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်း ပြောဆို၏။

မှန်ကန်သော ပြောဆိုခြင်းလည်း ရှိ၏။

မှန်ကန်သော ပြုခြင်းလည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို မဖျက်ဆီး။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထိုအတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၂) ၂ - အန္ဓကဝိန္ဒဝဂ် ===

## ၁၀ - မိစ္ဆာဝါယာမသုတ်

၁၂၀။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ မချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်း ပြောဆို၏။

(ဉာဏ်ဖြင့်) မစိစစ် မသက်ဝင်မူ၍ ချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ ပြောဆို၏။

မှားယွင်းသော အားထုတ်မှု ဝီရိယ’လည်း ရှိ၏။

မှားယွင်းသော အောက်မေ့မှု ‘သတိ’လည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို ဖျက်ဆီး၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ ငရဲ၌ ဖြစ်ရ၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ မချီးမွမ်းထိုက်သူ၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ ပြောဆို၏။

(ဉာဏ်ဖြင့်) စိစစ် သက်ဝင်၍ ချီးမွမ်းထိုက်သူ၏ ဂုဏ်ကို ချီးမွမ်း ပြောဆို၏။

မှန်ကန်သော အားထုတ်မှု ဝီရိယ’လည်း ရှိ၏။

မှန်ကန်သော အောက်မေ့မှု ‘သတိ’လည်း ရှိ၏။

သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းကို မဖျက်ဆီး။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းမိန်းမသည် ဆောင်ယူ၍ ချထားအပ် သကဲ့သို့ ထို့အတူ နတ်ပြည်၌ ဖြစ်ရ၏ ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**နှစ်ခုမြောက် အန္ဓကဝိန္ဒဝဂ် ပြီး၏။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၁ - ဂိလာနသုတ်

၁၂၁။ အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဝေသာလီပြည် မဟာဝုန်တော ပြာသာဒ်ဆောင် ပေါက်သော ကျောင်းကြီး၌ (သီတင်းသုံး) နေတော်မူ၏၊ ထိုအခါ မြတ်စွာဘုရားသည် ညနေချမ်းအခါ၌ တစ်ပါးတည်း ကိန်းအောင်းတော်မူရာမှ ထတော်မူလျက် သူနာရဟန်းတို့ နေရာ ကျောင်းသို့ ချဉ်းကပ် တော်မူ၏။

မြတ်စွာဘုရားသည် အားနည်းသော သူနာရဟန်း တစ်ပါးကို မြင်တော် မူသောကြောင့် ခင်းထား သော နေရာ၌ ထိုင်နေတော် မူလျက် ရဟန်းတို့ကို ခေါ်၍ -

ရဟန်းတို့ တရားငါးမျိုးတို့သည် အားနည်းသော မည်သည့် သူနာရဟန်းကို မဆို မစွန့်ကြကုန်မူ ထိုရဟန်းသည် "မကြာမီပင်လျှင် အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ် မြောက်သော (အရဟတ္တဖိုလ်) စိတ်နှင့် လွတ်မြောက်သော (အရဟတ္တဖိုလ်) ပညာကို ယခုဘဝ၌ပင်လျှင် ထူးသောဉာဏ်ဖြင့် ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍ နေရလိမ့်မည်" ဟူသော ဤအကျိုးကို (မချွတ်ရလိမ့်မည်ဟု) မျှော်လင့်အပ်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် ခန္ဓာကိုယ်၌ မတင့်တယ် ဟု အဖန်တလဲလဲ ရှုလျက် နေ၏။ (သုံးဆောင်အပ်သော) အာဟာရ၌ စက်ဆုပ်ဖွယ်ဟု အမှတ်ရှိ၍၊ အလုံးစုံသော လောက၌ မမွေ့လျော်ဖွယ် ဟု အမှတ်ရှိ၍၊ အလုံးစုံသော သင်္ခါရ တရားတို့၌ အမြဲမရှိ ဟု ရှုလေ့ ရှိသည်ဖြစ်၍ နေ၏။ ထိုရဟန်းအား သေခြင်းကို အာရုံပြု၍ဖြစ်သော အမှတ် 'သညာ' သည် မိမိသန္တာန်၌ ကောင်းစွာ တည်၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့သည် အားနည်းသော မည်သည့်သူနာ ရဟန်းကိုမဆို မစွန့်ကြကုန်မူ ထိုရဟန်းသည် "မကြာမီပင်လျှင် အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ် မြောက်သော (အရဟတ္တဖိုလ်) စိတ်နှင့် လွတ်မြောက်သော (အရဟတ္တဖိုလ်) ပညာကို ယခုဘဝ၌ပင်လျှင် ထူးသောဉာဏ်ဖြင့် ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍ နေရလိမ့်မည်" ဟူသော အကျိုးကို (မချွတ်ရလိမ့်မည်ဟု) မျှော်လင့်အပ်၏ ဟု (မိန့်တော်မူ၏)။

**ပဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

## ၂ - သတိသူပဋ္ဌိတသုတ်

၁၂၂။ ရဟန်းတို့ ရဟန်းဖြစ်စေ ရဟန်းမိန်းမဖြစ်စေ မည်သူမဆို တရားငါးမျိုးတို့ကို ပွါးများခဲ့မူ တရား ငါးမျိုး တို့ကို ကြိမ်ဖန်များစွာ လေ့လာခဲ့မူ ထိုသူသည် "မျက်မှောက် ဘဝ၌ပင် အရဟတ္တဖိုလ်ကို သော် လည်းကောင်း၊ ကိလေသာ ကြွင်းကျန်ခဲ့သေးလျှင် အနာဂါမ် အဖြစ်ကိုသော် လည်းကောင်း" အကျိုးနှစ်မျိုးတို့တွင် တစ်မျိုးမျိုးသော အကျိုးကို (မချွတ်ရလိမ့်မည်ဟု) မျှော်လင့်အပ်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းအား မိမိသန္တာန်၌ သာလျှင် အောက်မေ့ခြင်း 'သတိ' သည် ကောင်းစွာ တည်၏။

တရားတို့၏ ဖြစ်မှု ပျက်မှုကို သိသော ပညာဖြင့် ခန္ဓာကိုယ်၌ မတင့်တယ်ဟု ရှုလေ့ ရှိသည်ဖြစ်၍ နေ၏။

(သုံးဆောင်အပ်သော) အာဟာရ၌ စက်ဆုပ်ဖွယ် ဟု အမှတ် ရှိသည်ဖြစ်၍ နေ၏။

အလုံးစုံသော လောက၌ မမွေ့လျော်ဖွယ် ဟု အမှတ် ရှိသည်ဖြစ်၍ နေ၏။

အလုံးစုံသော သင်္ခါရ တရားတို့၌ အမြဲမရှိ ဟု ရှုလေ့ ရှိသည်ဖြစ်၍ နေ၏။

ရဟန်းတို့ ရဟန်းဖြစ်စေ ရဟန်းမိန်းမဖြစ်စေ မည်သူမဆို ဤတရားငါးမျိုးတို့ကို ပွါးများခဲ့မူ ဤတရားငါးမျိုးတို့ကို ကြိမ်ဖန်များစွာ လေ့လာခဲ့မူ ထိုသူသည် "မျက်မှောက် ဘဝ၌ပင် အရဟတ္တဖိုလ်ကို သော် လည်းကောင်း၊ ကိလေသာ ကြွင်းကျန်ခဲ့သေးလျှင် အနာဂါမ်အဖြစ်ကိုသော် လည်းကောင်း" အကျိုးနှစ်မျိုးတို့တွင် တစ်မျိုးမျိုးသော အကျိုးကို (မချွတ်ရလိမ့်မည်ဟု) မျှော်လင့်အပ်၏ ဟု (မိန့်တော်မူ၏)။

ဒုတိယသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

## ၃ - ပဌမ ဥပဋ္ဌာကသုတ်

၁၂၃။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော သူနာသည် ပြုစုရခက်သူ ဖြစ်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

(အနာရောဂါအား) မလျောက်ပတ်သည်ကို ပြုလုပ်လေ့ရှိ၏။ (အနာရောဂါအား) လျောက်ပတ်သည်၌ အတိုင်းအရှည်ကို မသိတတ်။ ဆေးကို မှီဝဲခြင်းမရှိ။ အကျိုးကို လိုလားသော သူနာပြုအား ဟုတ်တိုင်းမှန်စွာ တိုးသည်ကို "တိုး၏" ဟူ၍ လည်းကောင်း၊ ဆုတ်သည်ကို "ဆုတ်၏" ဟူ၍ လည်းကောင်း၊ တန့်သည်ကို "တန့်၏" ဟူ၍ လည်းကောင်း အနာရောဂါကို ထင်စွာ မပြုတတ်။ ဖြစ်ပေါ်လာသည့် ပြင်းထန် ကြမ်းကြုတ် စပ်ရှား ကျင်နာ မသာယာဖွယ် မနှစ်သက်ဖွယ် ဖြစ်၍ အသက် သေလောက်သည့် ကိုယ်၌ ဖြစ်သော ဆင်းရဲ ဝေဒနာတို့ကို သည်းမခံနိုင်သော သဘောရှိ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော သူနာသည် ပြုစုရခက်သူ ဖြစ်၏။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော သူနာသည် ပြုစုရလွယ်သူ ဖြစ်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

(အနာရောဂါအား) လျောက်ပတ်သည်ကို ပြုလုပ်တတ်၏။ (အနာရောဂါအား) လျောက်ပတ်သည်၌ အတိုင်းအရှည်ကို သိ၏။ ဆေးကို မှီဝဲခြင်းရှိ၏။ အကျိုးကို လိုလားသော သူနာပြုအား ဟုတ်တိုင်းမှန်စွာ တိုးသည်ကို "တိုး၏" ဟူ၍ လည်းကောင်း၊ ဆုတ်သည်ကို "ဆုတ်၏" ဟူ၍ လည်းကောင်း တန့်သည်ကို "တန့်၏" ဟူ၍ လည်းကောင်း အနာရောဂါကို ထင်စွာပြုတတ်၏။ ဖြစ်ပေါ်လာသည့် ပြင်းထန် ကြမ်းကြုတ် စပ်ရှား ကျင်နာ မသာယာဖွယ် မနှစ်သက်ဖွယ် ဖြစ်၍ အသက် သေလောက်သည့် ကိုယ်၌ ဖြစ်သော ဆင်းရဲ ဝေဒနာတို့ကို သည်းခံနိုင်သော သဘောရှိ၏။

ရဟန်းတို့ ဤ တရား ငါးမျိုးတို့နှင့် ပြည့်စုံသော သူနာသည် ပြုစုရလွယ်သူ ဖြစ်၏ ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၄ - ဒုတိယ ဥပဋ္ဌာကသုတ်

၁၂၄။ ရဟန်းတို့ တရား ငါးမျိုးတို့နှင့် ပြည့်စုံသော သူနာပြုသည် သူနာကို ပြုစုရန် မထိုက်တန်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ဆေးကို စီရင်ရန် မစွမ်းနိုင်။

(အနာရောဂါအား) လျောက်ပတ်သည် မလျောက်ပတ်သည်ကို မသိတတ်၊ မလျောက်ပတ်သည်ကို ဆက်ကပ်၏၊ လျောက်ပတ်သည်ကို ဖယ်ထား၏။

(သက်နီးစသည့်) အာမိသ ဟူသော အကြောင်းကြောင့် သူနာကို ပြုစု၏၊ မေတ္တာစိတ် ရှိသည်ဖြစ်၍ မပြုစု။

ကျင်ကြီးကို လည်းကောင်း၊ ကျင်ငယ်ကို လည်းကောင်း၊ အန်ဖတ်ကို လည်းကောင်း၊ တံထွေးကို လည်းကောင်း ထုတ်ဆောင်ရန် စက်ဆုပ် ရွံရှာ၏။

အခါကာလ အားလျော်စွာ သူနာကို တရားစကားဖြင့် (အကျိုးစီးပွါးကို) သိမြင်စေလျက် (တရားကို) ဆောက်တည်စေကာ (တရားကျင့်သုံးရန်) ထက်သန် ရွှင်လန်းစေခြင်းငှါ မစွမ်းနိုင်။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော သူနာပြုသည် သူနာကို ပြုစုရန် မထိုက်တန်။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော သူနာပြုသည် သူနာကို ပြုစုရန် ထိုက်တန်၏။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ဆေးကို စီရင်ရန် စွမ်းနိုင်၏။

(အနာရောဂါအား) လျောက်ပတ်သည် မလျောက်ပတ်သည်ကို သိတတ်၏၊ မလျောက်ပတ်သည်ကို ဖယ်ထား၏။ လျောက်ပတ်သည်ကို ဆက်ကပ်၏။

(သက်နီးစသည့်) အာမိသ ဟူသော အကြောင်းကြောင့် သူနာကို ပြုစုသည် မဟုတ်၊ မေတ္တာစိတ် ရှိသည် ဖြစ်၍ ပြုစု၏။

ကျင်ကြီးကို လည်းကောင်း၊ ကျင်ငယ်ကို လည်းကောင်း၊ အန်ဖတ်ကို လည်းကောင်း၊ တံထွေးကို လည်းကောင်း ထုတ်ဆောင်ရန် စက်ဆုပ် ရွံရှာလေ့ မရှိ။

အခါကာလ အားလျော်စွာ သူနာကို တရားစကားဖြင့် (အကျိုးစီးပွါးကို) သိမြင်စေလျက် (တရားကို) ဆောက်တည်စေကာ (တရားကျင့်သုံးရန်) ထက်သန် ရွှင်လန်းစေခြင်းငှါ စွမ်းနိုင်၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော သူနာပြုသည် သူနာကို ပြုစုရန် ထိုက်တန်၏ ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၅ - ပဉ္စမ အနာယုဿသုတ်

၁၂၅။ ရဟန်းတို့ အသက်တိုကြောင်း တရားတို့သည် ဤငါးမျိုးတို့တည်း။
အဘယ် ငါးမျိုး တို့နည်း ဟူမူ -
မလျောက်ပတ်သည်ကို ပြုလုပ်လေ့ရှိ၏။
လျောက်ပတ်သည်၌ အတိုင်းအရှည်ကို မသိတတ်။
မကြေကျက်လွယ်သော အစာကို စားလေ့ရှိ၏။
အချိန်အခါ မဟုတ်သည်၌ သွားလာတတ်၏။
မမြတ်သော (မေထုန်) အကျင့်ကို ကျင့်လေ့ရှိ၏။
ရဟန်းတို့ ဤသည်တို့ကား အသက်တိုကြောင်း တရားငါးမျိုးတို့တည်း။
ရဟန်းတို့ အသက်ရှည်ကြောင်း တရားတို့သည် ဤငါးမျိုးတို့တည်း။
အဘယ်ငါးမျိုးတို့နည်းဟူမူ -
လျောက်ပတ်သည်ကို ပြုလုပ်လေ့ရှိ၏။
လျောက်ပတ်သည်၌ အတိုင်းအရှည်ကို သိတတ်၏။
ကြေကျက်လွယ်သော အစာကို စားလေ့ရှိ၏။
အချိန်အခါ၌ သွားလာတတ်၏။
မြတ်သောအကျင့်ကို ကျင့်၏။
ရဟန်းတို့ ဤသည်တို့ကား အသက်ရှည်ကြောင်း တရားငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၃) ၃ - ဂိလာနဝဂ် ===

### ၆ - ဒုတိယ အနာယုဿာသုတ်

၁၂၆။ ရဟန်းတို့ အသက်တိုကြောင်း တရားတို့သည် ဤငါးမျိုးတို့တည်း။
အဘယ် ငါးမျိုး တို့နည်း ဟူမူ -
မလျောက်ပတ်သည်ကို ပြုလုပ်လေ့ရှိ၏။
လျောက်ပတ်သည်၌ အတိုင်းအရှည်ကို မသိတတ်။
မကြေကျက်လွယ်သော အစာကို စားလေ့ရှိ၏။
သီလမရှိ။
ယုတ်မာသော အဆွေခင်ပွန်း ရှိ၏။
ရဟန်းတို့ ဤသည်တို့ကား အသက်တိုကြောင်း တရားငါးမျိုးတို့တည်း။
ရဟန်းတို့ အသက်ရှည်ကြောင်း တရားတို့သည် ဤ ငါးမျိုးတို့တည်း။
အဘယ်ငါးမျိုးတို့နည်းဟူမူ-
လျောက်ပတ်သည်ကို ပြုလုပ်လေ့ရှိ၏။
လျောက်ပတ်သည်၌ အတိုင်းအရှည်ကို သိတတ်၏။
ကြေကျက်လွယ်သော အစာကို စားလေ့ရှိ၏။
သီလရှိ၏။
အဆွေခင်ပွန်းကောင်း ရှိ၏။
ရဟန်းတို့ ဤသည်တို့ကား အသက်ရှည်ကြောင်း တရားငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**ဆဋ္ဌသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၇ - ဝပကာသသုတ်

၁၂၇။ ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် သံဃာမှ ထွက်ခွါ၍ တစ်ယောက် တည်းနေရန် မထိုက်တန်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -

ရတတ်သမျှသော သင်္ကန်းဖြင့် မရောင့်ရဲနိုင်။

ရတတ်သမျှသော ဆွမ်းဖြင့် မရောင့်ရဲနိုင်။

ရတတ်သမျှသော ကျောင်းအိပ်ရာ နေရာဖြင့် မရောင့်ရဲနိုင်။

ရတတ်သမျှသော သူနာ၏ အထောက်အပံ့ ဆေး အသုံးအဆောင်ဖြင့် မရောင့်ရဲနိုင်။

ကာမဂုဏ်တို့၌ အကြံအစည် များလျက် နေ၏။

ရဟန်းတို့ ဤ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် သံဃာမှ ထွက်ခွါ၍ တစ်ယောက်တည်း နေရန် မထိုက်တန်။

ရဟန်းတို့ တရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် သံဃာမှ ထွက်ခွါ၍ တစ်ယောက်တည်း နေရန် ထိုက်တန်၏။

အဘယ်ငါးမျိုးတို့နည်းဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -

ရတတ်သမျှသော သင်္ကန်းဖြင့် ရောင့်ရဲ၏။

ရတတ်သမျှသော ဆွမ်းဖြင့် ရောင့်ရဲ၏။

ရတတ်သမျှသော ကျောင်းအိပ်ရာ နေရာဖြင့် ရောင့်ရဲ၏။

ရတတ်သမျှသော သူနာ၏ အထောက်အပံ့ ဆေး အသုံးအဆောင်ဖြင့် ရောင့်ရဲ၏။

ကာမဂုဏ်တို့၌ အကြံအစည် များလျက် မနေ။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ရဟန်းသည် သံဃာမှ ထွက်ခွါ၍ တစ်ယောက်တည်း နေရန် ထိုက်တန်၏ ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၈ - သမဏသုခသုတ်

၁၂၈။ ရဟန်းတို့ ရဟန်း၏ ဆင်းရဲခြင်းတို့သည် ဤငါးမျိုးတို့တည်း။
အဘယ် ငါးမျိုး တို့နည်း ဟူမူ -
ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -
ရတတ်သမျှသော သင်္ကန်းဖြင့် မရောင့်ရဲနိုင်။
ရတတ်သမျှသော ဆွမ်းဖြင့် မရောင့်ရဲနိုင်။
ရတတ်သမျှသော ကျောင်းအိပ်ရာ နေရာဖြင့် မရောင့်ရဲနိုင်။
ရတတ်သမျှသော သူနာ၏ အထောက်အပံ့ ဆေး အသုံးအဆောင်ဖြင့် မရောင့်ရဲနိုင်။
မမွေ့လျော်ဘဲလျက် မြတ်သော အကျင့်ကို ကျင့်၏။
ရဟန်းတို့ ဤငါးမျိုး တို့သည် ရဟန်း၏ ဆင်းရဲခြင်းတို့တည်း။
ရဟန်းတို့ ရဟန်း၏ ချမ်းသာခြင်းတို့သည် ဤငါးမျိုးတို့တည်း။
အဘယ် ငါးမျိုး တို့နည်း ဟူမူ -
ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် -
ရတတ်သမျှသော သင်္ကန်းဖြင့် ရောင့်ရဲ၏။
ရတတ်သမျှသော ဆွမ်းဖြင့် ရောင့်ရဲ၏။
ရတတ်သမျှသော ကျောင်းအိပ်ရာ နေရာဖြင့် ရောင့်ရဲ၏။
ရတတ်သမျှသော သူနာ၏ အထောက်အပံ့ ဆေး အသုံးအဆောင်ဖြင့် ရောင့်ရဲ၏။
မွေ့လျော်သည်ဖြစ်၍ မြတ်သော အကျင့်ကို ကျင့်၏။
ရဟန်းတို့ ဤငါးမျိုးတို့သည် ရဟန်း၏ ချမ်းသာခြင်းတို့တည်း ဟု (မိန့်တော်မူ၏)။

**အဋ္ဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၉ - ပရိကုပ္ပသုတ်

၁၂၉။ ရဟန်းတို့ အပါယ်ဘုံသို့ ရောက်စေတတ် ကုန်သော၊ ငရဲသို့ ရောက်စေတတ် ကုန်သော၊ ပျက်စီးခြင်း သဘော ရှိကုန်သော၊ ကုစားခြင်းငှါ မတတ်ကောင်း ကုန်သော တရားတို့သည် ဤငါးမျိုးတို့ တည်း။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

အမိကို သတ်၏။

အဖကို သတ်၏။

ရဟန္တာကို သတ်၏။

မြတ်စွာဘုရားအား ပြစ်မှားသော စိတ်ဖြင့် သွေးကို ဖြစ်စေ၏။

သံဃာကို သင်းခွဲ၏။

ရဟန်းတို့ အပါယ်ဘုံသို့ ရောက်စေတတ် ကုန်သော၊ ငရဲသို့ ရောက်စေတတ် ကုန်သော၊ ပျက်စီးခြင်း သဘော ရှိကုန်သော၊ ကုစားခြင်းငှါ မတတ်ကောင်း ကုန်သော တရားတို့သည် ဤငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

## === (၁၃) ၃ - ဂိလာနဝဂ် ===

### ၁၀ - ဗျသနသုတ်

၁၃၀။ ရဟန်းတို့ ပျက်စီးခြင်းတို့သည် ဤငါးမျိုးတို့တည်း။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

အဆွေအမျိုးတို့၏ ပျက်စီးခြင်း။

စည်းစိမ် ဥစ္စာတို့၏ ပျက်စီးခြင်း။

အနာရောဂါ နှိပ်စက်မှု ဟူသော ပျက်စီးခြင်း။

အကျင့်သီလ၏ ပျက်စီးခြင်း။

အယူ၏ ပျက်စီးခြင်းတို့တည်း။

ရဟန်းတို့ သတ္တဝါတို့သည် အဆွေအမျိုးတို့၏ ပျက်စီးခြင်းကြောင့် ဖြစ်စေ စည်းစိမ် ဥစ္စာတို့၏ ပျက်စီးခြင်းကြောင့်ဖြစ်စေ အနာရောဂါ နှိပ်စက်မှု ဟူသော ပျက်စီးခြင်းကြောင့်ဖြစ်စေ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှနောက်၌ ချမ်းသာကင်းသော မကောင်းသောလားရာ ပျက်စီး၍ ကျရာဖြစ်သော ငရဲ၌ မဖြစ်ရကုန်။

ရဟန်းတို့ သတ္တဝါတို့သည် အကျင့်သီလ၏ ပျက်စီးခြင်းကြောင့်ဖြစ်စေ အယူ၏ ပျက်စီးခြင်းကြောင့် ဖြစ်စေ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ချမ်းသာ ကင်းသော မကောင်းသော လားရာ ပျက်စီး၍ ကျရာဖြစ်သော ငရဲ၌ ဖြစ်ရကုန်၏။

ရဟန်းတို့ ပျက်စီးခြင်းတို့သည် ဤငါးမျိုးတို့တည်း။

ရဟန်းတို့ ပြည့်စုံခြင်းတို့သည် ဤငါးမျိုးတို့တည်း။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

အဆွေအမျိုးတို့၏ ပြည့်စုံခြင်း။

စည်းစိမ် ဥစ္စာတို့၏ ပြည့်စုံခြင်း။

အနာကင်းမှု၏ ပြည့်စုံခြင်း။

အကျင့်သီလ၏ ပြည့်စုံခြင်း။

အယူ၏ ပြည့်စုံခြင်းတို့တည်း။

ရဟန်းတို့ သတ္တဝါတို့သည် ဆွေမျိုးတို့၏ ပြည့်စုံခြင်းကြောင့် ဖြစ်စေ စည်းစိမ်ဥစ္စာတို့၏ ပြည့်စုံခြင်းကြောင့်ဖြစ်စေ အနာကင်းမှု၏ ပြည့်စုံခြင်းကြောင့် ဖြစ်စေ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော လားရာဖြစ်သော နတ်ပြည်၌ မဖြစ်ကုန်။

ရဟန်းတို့ သတ္တဝါတို့သည် အကျင့်သီလ၏ ပြည့်စုံခြင်းကြောင့် ဖြစ်စေ အယူ၏ ပြည့်စုံခြင်းကြောင့် ဖြစ်စေ ခန္ဓာကိုယ် ပျက်စီး၍ သေပြီးသည်မှ နောက်၌ ကောင်းသော လားရာဖြစ်သော နတ်ပြည်၌ ဖြစ်ရကုန်၏။

ရဟန်းတို့ ပြည့်စုံခြင်းတို့သည် ဤငါးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**သုံးခုမြောက် ဂိလာနဝဂ် ပြီး၏။**

## === (၁၄) ၄ - ရာဇဝဂ် ===

### ၁ - ပဌမ စက္ကာနုဝတ္တနသုတ်

၁၃၁။ ရဟန်းတို့ အင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော စကြဝတေးမင်းသည် တရားဖြင့် သာလျှင် စကြာရတနာကို လည်စေ၏၊ ထိုစကြာရတနာကို ရန်သူဖြစ်သော လူသတ္တဝါ တစ်စုံ တစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤလောက၌ စကြဝတေးမင်းသည် -

အကျိုးကိုလည်း သိ၏။

(ရှေးအစဉ်အလာ) တရားကိုလည်း သိ၏။

အတိုင်းအရှည်ကိုလည်း သိ၏။

အခါကာလကိုလည်း သိ၏။

ပရိသတ်ကိုလည်း သိ၏။

ရဟန်းတို့ ဤအင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော စကြဝတေးမင်းသည် တရားဖြင့်သာလျှင် စကြာရတနာကို လည်စေ၏၊ ထိုစကြာရတနာကို ရန်သူဖြစ်သော လူသတ္တဝါ တစ်စုံ တစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

ရဟန်းတို့ ဤအတူသာလျှင် တရားငါးမျိုးတို့နှင့် ပြည့်စုံ၍ ပူဇော်အထူးကို ခံတော်မူထိုက်သော (အလုံးစုံသောတရားတို့ကို) ကိုယ်တိုင်မှန်စွာ သိတော်မူသော မြတ်စွာဘုရားသည် တရားဖြင့်သာလျှင် အတုမရှိသော ဓမ္မစကြာကို လည်စေတော်မူ၏၊ ထိုဓမ္မစကြာကို သမဏဖြစ်စေ ဗြာဟ္မဏဖြစ်စေ နတ်ဖြစ်စေ မာရ်နတ်ဖြစ်စေ ဗြဟ္မာ ဖြစ်စေ လောက၌ မည်သူ တစ်စုံတစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤလောက၌ ပူဇော်အထူးကို ခံတော်မူထိုက်သော (အလုံးစုံသောတရားတို့ကို) ကိုယ်တိုင် မှန်စွာ သိတော်မူသော မြတ်စွာဘုရားသည် -

အကျိုးကိုလည်း သိတော်မူ၏။

တရားကိုလည်း သိတော်မူ၏။

အတိုင်းအရှည်ကိုလည်း သိတော်မူ၏။

ကာလကိုလည်း သိတော်မူ၏။

ပရိသတ်ကိုလည်း သိတော်မူ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော ပူဇော်အထူးကို ခံတော်မူထိုက်သော (အလုံးစုံသော တရားတို့ကို) ကိုယ်တိုင်မှန်စွာ သိတော်မူသော မြတ်စွာဘုရားသည် တရားဖြင့်သာလျှင် အတုမရှိသော ဓမ္မစကြာကို လည်စေတော်မူ၏၊ ထိုဓမ္မစကြာကို သမဏဖြစ်စေ ဗြာဟ္မဏဖြစ်စေ နတ်ဖြစ်စေ မာရ်နတ် ဖြစ်စေ ဗြဟ္မာဖြစ်စေ လောက၌ မည်သူ တစ်စုံ တစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင် ဟု (မိန့်တော် မူ၏)။

ပဌမသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ရာဇဝဂ် ===

### ၂ - ဒုတိယ စက္ကာနုဝတ္တနသုတ်

၁၃၂။ ရဟန်းတို့ အင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော စကြဝတေးမင်း၏ သားကြီးသည် ခမည်းတော် လည်စေအပ်သော စကြာရတနာကို တရားဖြင့်သာလျှင် အတုလိုက်၍ လည်စေ၏၊ ထိုစကြာရတနာကို ရန်သူဖြစ်သော လူသတ္တဝါ တစ်စုံတစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤလောက၌ စကြဝတေးမင်း၏ သားကြီးသည် -

အကျိုးကိုလည်း သိ၏။

(အစဉ်အလာ) တရားကိုလည်း သိ၏။

အတိုင်းအရှည်ကိုလည်း သိ၏။

အခါကာလကိုလည်း သိ၏။

ပရိသတ်ကိုလည်း သိ၏။

ရဟန်းတို့ ဤအင်္ဂါငါးမျိုးတို့နှင့် ပြည့်စုံသော စကြဝတေးမင်း၏ သားကြီးသည် ခမည်းတော် လည်စေအပ်သော စကြာရတနာကို တရားဖြင့်သာလျှင် အတုလိုက်၍ လည်စေ၏၊ ထိုစကြာရတနာကို ရန်သူ ဖြစ်သော လူသတ္တဝါ တစ်စုံတစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

ရဟန်းတို့ ဤအတူသာလျှင် တရားငါးမျိုးတို့နှင့် ပြည့်စုံသော သာရိပုတြာသည် ငါဘုရား လည်စေ အပ်သော အတုမရှိသော ဓမ္မစက်ကို ကောင်းစွာ အတုလိုက်၍ လည်စေ၏၊ ထိုဓမ္မစက်ကို သမဏဖြစ်စေ ဗြာဟ္မဏဖြစ်စေ နတ်ဖြစ်စေ မာရ်နတ်ဖြစ်စေ ဗြဟ္မာဖြစ်စေ လောက၌ မည်သူ တစ်စုံတစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

အဘယ် ငါးမျိုး တို့နည်း ဟူမူ -

ရဟန်းတို့ ဤသာသနာတော်၌ သာရိပုတြာသည်-

အကျိုးကိုလည်း သိ၏။

တရားကိုလည်း သိ၏။

အတိုင်းအရှည်ကိုလည်း သိ၏။

အခါကာလကိုလည်း သိ၏။

ပရိသတ်ကိုလည်း သိ၏။

ရဟန်းတို့ ဤတရားငါးမျိုးတို့နှင့် ပြည့်စုံသော သာရိပုတြာသည် ငါဘုရား လည်စေအပ်သော အတု မရှိသော ဓမ္မစက်ကို ကောင်းစွာ အတုလိုက်၍ လည်စေ၏၊ ထိုဓမ္မစက်ကို သမဏဖြစ်စေ ဗြာဟ္မဏ ဖြစ်စေ နတ်ဖြစ်စေ မာရ်နတ်ဖြစ်စေ ဗြဟ္မာဖြစ်စေ လောက၌ မည်သူ တစ်စုံ တစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင် ဟု (မိန့်တော်မူ၏)။

ဒုတိယသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ရာဇဝဂ် ===

## ၃ - ဓမ္မရာဇာသုတ်

၁၃၃။ ရဟန်းတို့ တရားရှိ၍ တရားမင်းဖြစ်သော စကြဝတေးမင်းသော်မှလည်း (အမှီ) မင်းကို မရခဲ့လျှင် စကြာရတနာကို မလည်စေနိုင်။

ဤသို့ မိန့်တော်မူသော် ရဟန်းတစ်ပါးသည် မြတ်စွာဘုရားအား -

"အသျှင်ဘုရား တရားရှိ၍ တရားမင်းဖြစ်သော စကြဝတေးမင်း၏ အမှီမင်း ဟူသည် အဘယ်ပါနည်း" ဟု လျှောက်၏။

"ရဟန်း (ကုသိုလ်ကမ္မပထ) တရားတည်း" ဟု မြတ်စွာဘုရားသည် မိန့်တော်မူ၏။

ရဟန်း ဤလောက၌ တရားရှိ၍ တရားမင်းဖြစ်သော စကြဝတေးမင်းသည် တရားကိုသာလျှင် မှီ၍ တရားကို အရိုအသေပြုလျက် တရားကို လေးစားလျက် တရားကို တုပ်ဝပ်လျက် တရားကို အောင်လံသဖွယ် ရှေ့ဆောင်ပြုလျက် တရားကို တံခွန်သဖွယ် မြှောက်ချီလျက် တရားကို အကြီးအမှူး ပြုလျက် နန်းတွင်းသူ နန်းတွင်းသား (မိဖုရား သားတော် သမီးတော်) အပေါင်း၌ တရား အားလျော်သော စောင့်ရှောက်မှု ကာကွယ်မှု လုံခြုံမှုကို စီရင်၏။

ရဟန်း နောက်တစ်မျိုးကား တရားရှိ၍ တရားမင်းဖြစ်သော စကြဝတေးမင်းသည် တရားကိုသာလျှင် မှီ၍ တရားကို အရိုအသေ ပြုလျက် တရားကို လေးစားလျက် တရားကို တုပ်ဝပ်လျက် တရားကို အောင်လံသဖွယ် ရှေ့ဆောင် ပြုလျက် တရားကို တံခွန်သဖွယ် မြှောက်ချီလျက် တရားကို အကြီးအမှူး ပြုလျက် (အဘိသိက်သွန်းပြီးသော) မင်း(အဘိသိက်မသွန်းရသေးသော) အရံမင်းတို့၌။ပ။ စစ်သည် ဗိုလ်ပါ အပေါင်း၌။ ပုဏ္ဏားနှင့် အမျိုးသားတို့၌။ နိဂုံး ဇနပုဒ်သားတို့၌။ သမဏဗြာဟ္မဏတို့၌။ သားငှက်တို့၌ တရား အားလျော်သော စောင့်ရှောက်မှု ကာကွယ်မှု လုံခြုံမှုကို စီရင်၏။

ရဟန်း တရားရှိ၍ တရားမင်းဖြစ်သော ထိုစကြဝတေးမင်းသည် တရားကိုသာလျှင် မှီ၍ တရားကို အရိုအသေပြုလျက် တရားကို လေးစားလျက် တရားကို တုပ်ဝပ်လျက် တရားကို အောင်လံသဖွယ် ရှေ့ဆောင် ပြုလျက် တရားကို တံခွန်သဖွယ် မြှောက်ချီလျက် တရားကို အကြီးအမှူးပြုလျက် နန်းတွင်းသူ နန်းတွင်းသား (မိဖုရား သားတော် သမီးတော်) အပေါင်း၌ တရား အားလျော်သော စောင့်ရှောက်မှု ကာကွယ်မှု လုံခြုံမှုကို စီရင်၏။ (အဘိသိက်သွန်းပြီးသော) မင်း (အဘိသိက်မသွန်းရသေးသော) အရံမင်းစစ်သည် ဗိုလ်ပါအပေါင်း ပုဏ္ဏားနှင့် အမျိုးသား နိဂုံး ဇနပုဒ်သား သမဏဗြာဟ္မဏ သားငှက်တို့၌ တရား အားလျော်သော စောင့်ရှောက်မှု ကာကွယ်မှု လုံခြုံမှုကို စီရင်၍ တရားဖြင့်သာလျှင် စကြာရတနာကို လည်စေ၏၊ ထိုစကြာရတနာကို ရန်သူဖြစ်သည့် လူသတ္တဝါ တစ်စုံတစ်ယောက်ကမျှ မဖျက်ဆီး မတားမြစ်နိုင်။

ရဟန်း ဤအတူသာလျှင် ပူဇော် အထူးကို ခံတော် မူထိုက်သော (အလုံးစုံသောတရားတို့ကို) ကိုယ်တိုင်မှန်စွာ သိတော်မူသော တရားစောင့်သည့် တရားမင်း ဖြစ်တော်မူသော မြတ်စွာဘုရားသည် တရားကို သာလျှင် မှီ၍ တရားကို အရိုအသေပြုလျက် တရားကို လေးစားလျက် တရားကို တုပ်ဝပ်လျက် တရားကို အောင်လံသဖွယ် ရှေ့ဆောင်ပြုလျက် တရားကို တံခွန်သဖွယ် မြှောက်ချီလျက် တရားကို အကြီးအမှူးပြုလျက် -

"ဤသို့ သဘောရှိသော ကာယကံကို မှီဝဲအပ်၏။ ဤသို့ သဘောရှိသော ကာယကံကို မမှီဝဲအပ်။ ဤသို့ သဘောရှိသော ဝစီကံကို မှီဝဲအပ်၏၊ ဤသို့ သဘောရှိသော ဝစီကံကို မမှီဝဲအပ်။ ဤသို့ သဘော

